၃။ အငှားချထားခြင်း ခံရသူ

| | | |
|---|---|---|
| (က) | အမည်/ကုမ္ပဏီအမည်/ဌာန/အဖွဲ့အစည်း | မြန်မာ စီ.ပီ.လိုက်(ဗ်)စတော့(ခ်) ကုမ္ပဏီ လီမိတက် |
| (ခ) | နိုင်ငံသားစိစစ်ရေးကတ်အမှတ်/နိုင်ငံကူးလက်မှတ်အမှတ် | ကုမ္ပဏီမှတ်ပုံတင်အမှတ် - ၁၄၉၈၃၃၃၀၈၀ (ယခင်ကုမ္ပဏီ မှတ်ပုံတင် အမှတ် ၃၂၁ အက်(ဖ်)စီ/ ၁၉၉၆-၁၉၉၇) |
| (ဂ) | နိုင်ငံသား | မြန်မာ |
| (ဃ) | နေရပ်လိပ်စာ | အမှတ် ၁၃၅၊ ပြည်လမ်း၊ စမိုင်ခွဲ၊ |

မရမ်းကုန်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး၊ မြန်မာ။

၄။ ငှားရမ်းလိုသည့် မြေနှင့်စပ်လျဉ်းသည့် အချက်အလက်များ

| | | |
|---|---|---|
| (က)) | ရင်းနှီးမြှုပ်နှံသည့် လုပ်ငန်းအမျိုးအစား | အသားစားကြက်၊ ဥစားကြက်၊ ဝက်မွေးမြူ ရောင်းချခြင်းလုပ်ငန်း |
| (ခ) | ရင်းနှီးမြှုပ်နှံသည့် အရပ်ဒေသ(များ)၊ | ဦးပိုင်အမှတ် - N-၁၀၂/၁၊ N-၁၀၃/၁၊ N-၁၀၄/၁ နှင့် N-၁၀၂/၂၊ N-၁၀၄/၃၊ ကွင်းအမှတ် - ၅၁၁/ခ၊ အောက်ချင်းကံမြောက်ကွင်း၊ ညောင်နှစ်ပင်ကျေးရွာအုပ်စု၊ မှော်ဘီမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး |
| (ဂ) | တည်နေရာ (ရပ်ကွက်၊ မြို့နယ်၊ ပြည်နယ်/တိုင်းဒေသကြီး) | ဦးပိုင်အမှတ် - N-၁၀၂/၁၊ N-၁၀၃/၁၊ N-၁၀၄/၁ နှင့် N-၁၀၂/၂၊ N-၁၀၄/၃၊ ကွင်းအမှတ် - ၅၁၁/ခ၊ အောက်ချင်းကံမြောက်ကွင်း၊ ညောင်နှစ်ပင်ကျေးရွာအုပ်စု၊ မှော်ဘီမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး |
| (ဃ) | မြေဧရိယာ အကျယ်အဝန်း | (၁) ထုတ်လုပ်မှု ဧရိယာ - ၁၇၀ ဧက (687,966.20 m2)<br>(၂) မြန်မာမွေးမြူရေးလုပ်ငန်း ဖွံ့ဖြိုးမှု လေ့ကျင့်ရေး စင်တာ ဧရိယာ- ၃၀ ဧက (121,405.80 m2) |
| (င) | အဆောက်အအုံအရွယ်အစား/အရေအတွက် | ပူးတွဲ ၂.၅ |
| (စ) | အဆောက်အအုံ တန်ဖိုး | ရင်းနှီးမြှုပ်နှံသူမှ အဆောက်အဦး ဆောက်လုပ်သုံးစွဲမည်ဖြစ်ပါသည်။ |

၅။ မြေပိုင်ဆိုင်မှု/မြေရာရန် အထောက်အထား(စက်မှုဇုန်မှ အပ)၊ မြေပုံနှင့် မြေငှားစာချုပ်(မူကြမ်း) တင်ပြရန်။
(ပူးတွဲ ၄.၁) (ပူးတွဲ ၄.၁) (ပူးတွဲ ၄.၁)




UTHAI TANTIPIMOLPHAN
MANAGING DIRECTOR

၆။ မြေငှားရမ်းခြင်းနှင့် စပ်လျဉ်း၍ အောက်ဖော်ပြပါ ပုဂ္ဂိုလ်ထံမှ တစ်ဆင့်ငှားရမ်းထားခြင်း ရှိ-မရှိ

- ☐ နိုင်ငံတော်၏ ဥပဒေများနှင့် အညီအစိုးရဌာန၊ အစိုးရအဖွဲ့အစည်းထံမှ နိုင်ငံတော်ပိုင်မြေ သို့မဟုတ် အဆောက်အအုံ အသုံးပြုခွင့်အား ယခင်ကပင် ရရှိထားသော ပုဂ္ဂိုလ်၊
- ☐ အစိုးရဌာန၊ အစိုးရအဖွဲ့အစည်း၏ ခွင့်ပြုချက်နှင့်အညီ နိုင်ငံတော်ပိုင် မြေသို့မဟုတ် အဆောက်အအုံအား တစ်ဆင့်ငှားယူရန် သို့မဟုတ် တစ်ဆင့်လိုင်စင် ရယူရန် အခွင့်ရှိသည့် ပုဂ္ဂိုလ်။

၇။ မြေ/အဆောက်အအုံ ငှားရမ်းခနှုန်း (တစ်နှစ်လျှင် တစ်စတုရန်း မီတာအတွက်)

(၁) ထုတ်လုပ်မှု ဧရိယာ (၁၇၀ ဧက) ကျပ် ၈၈၉.၅၈/စတုရန်း မီတာ/ တစ်နှစ်လျှင်

(၂) မြန်မာမွေးမြူရေးလုပ်ငန်း ဖွံ့ဖြိုးမှု လေ့ကျင့်ရေး စင်တာ ဧရိယာ (၃၀ဧက) ကျပ် ၂၉၆.၅၃/စတုရန်း မီတာ/ တစ်နှစ်လျှင်

---

၈။ မြေအသုံးချမှု ပရီမီယံကြေး (Land Use Premium-LUP) (အစိုးရဌာန/ အစိုးရအဖွဲ့ အစည်းပိုင် မြေငှားရမ်းခြင်းဖြစ်ပါက အငှားချထားခြင်းခံရသူ ထံမှငွေသားဖြင့် LUP တောင်းခံပါမည်။)

(၁) ထုတ်လုပ်မှု ဧရိယာ (၁၇၀ ဧက) ကျပ် ၆၁၂,၀၀၀,၀၀၀/ ၁၇၀ ဧက/ တစ်နှစ်လျှင်

(၂) မြန်မာမွေးမြူရေးလုပ်ငန်း ဖွံ့ဖြိုးမှု လေ့ကျင့်ရေး စင်တာ ဧရိယာ (၃၀ဧက) ကျပ် ၃၆,၀၀၀,၀၀၀/ ၃၀ ဧက/ တစ်နှစ်လျှင်

---

(၁) ထုတ်လုပ်မှု ဧရိယာ - ၁၇၀ ဧက ကျပ် ၃,၆၀၀,၀၀၀/ ဧက/ တစ်နှစ်လျှင်

(၂) မြန်မာမွေးမြူရေးလုပ်ငန်း ဖွံ့ဖြိုးမှု လေ့ကျင့်ရေး စင်တာ ဧရိယာ - ၃၀ဧက ကျပ် ၁,၂၀၀,၀၀၀/ ဧက/ တစ်နှစ်လျှင်

---

| | |
|---|---|
| ၉။ မူလမြေငှားရမ်းခွင့်ရှိသူသို့မဟုတ် မြေအသုံးပြုခွင့်ရသူမှ ငှားရမ်းအသုံးပြုခွင့်ရသူမှ ငှားရမ်းရန် သဘောတူ/မတူ | တူပါသည်။ |
| ၁၀။ လျှောက်ထားသည့် မြေသို့မဟုတ် အဆောက်အအုံ ငှားရမ်း/အသုံးပြုခွင့် သက်တမ်း | ခွင့်ပြုမိန့်ရ၍ စာချုပ်လက်မှတ် ထိုးပြီးချိန်မှ စ၍ ၃၀ နှစ် (နှစ် ဘက်သဘောတူညီချက် နှင့် မြန်မာ နိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သဘော တူညီချက်ဖြင့် ၅ နှစ် နှစ်ကြိမ် သက်တမ်းတိုး မြှင့်နိုင်သည်။) |
| ၁၁။ စက်မှုဇုန်၊ ဟိုတယ်ဇုန်၊ ကုန်သွယ်ရေးဇုန် အစရှိသည့် သက်ဆိုင်ရာ လုပ်ငန်းဇုန်ဧရိယာ အတွင်းရှိမြေ ဟုတ်/မဟုတ် (ဇုန်ကိုဖော်ပြရန်) | မွေးမြူရေးနှင့် ကုသရေး ဦးစီးဌာန ပိုင်မြေ |




UTHAI TANTIPIMOLPHAN
MANAGING DIRECTOR




| | |
|---|---|
| လျှောက်ထားသူလက်မှတ် | |
| အမည် | Mr.Uthai Tantipimolphan |
| ရာထူး | Managing Director |
| ဌာန/ကုမ္ပဏီ တံဆိပ် | UTHAI TANTIPIMOLPHAN<br>MANAGING DIRECTOR |




UTHAI TANTIPIMOLPHAN
MANAGING DIRECTOR

Form (7)

**Application form for Land Rights Authorization**

To,

**Chairman**
**Myanmar Investment**

Reference No.

Date 22/ 05/ 2019

Subject: **Application for Land Lease or Land Rights Authorization to be invested**

I do hereby apply with the following information for permit to lease the land or permit to use the land according to the Myanmar Investment Rules 116: -

1. Particulars relating to Owner of land / building

| | | |
|---|---|---|
| (a) Name of owner/organization | **Livestock Breeding and Veterinary Department** | |
| (b) Area | **(1)Production Area - 170 Acres (687966.20 m2)**<br>**(2)Myanmar Livestock Development Training Center - 30 Acres (121,405.80 m2)** | |
| (c) Location | **Holding No. N-102/1, N-103/1, N-104/1 and N-102/2, N-104/3, Kwin No. 511-B, Auk Chin Kan North Kwin, Nyaung Napin Village Tract, Hmawbi Township, Yangon Region** | |
| (d) Initial period permitted to use the land (validity of land grant) | **Land owned by Livestock Breeding and Veterinary Department** | |
| (e) Payment of long term lease as equity | Yes ( ) | No (√) |
| (f) Agreed by original Lessor | Yes (√) | No ( ) |
| (g) Type of land | **Land owned by Livestock Breeding and Veterinary Department** | |

2. Lessor

| | |
|---|---|
| (a) Name / Company's name/ Department/ organization | **Livestock Breeding and Veterinary Department** |
| (b) National Registration Card No | |
| (c) Address | **Building No. (36), Nay Pyi Taw** |

3. Lessee




Myanmar C.P. Livestock Company Limited.

UTHAI TANTIPIMOLPHAN
MANAGING DIRECTOR

| | |
|---|---|
| (a) Name / Company's name/ Department/ organization | **Myanmar C.P. Livestock Co., Ltd.** |
| (b) National Registration Card No /Passport No. | **Reg No. 149833080 (Former Reg No. 321 FC/1996-1997)** |
| (c) Citizenship | **Company incorporated in Myanmar** |
| (d) Address | **135, Pyay Road, 8½ Mile, Mayangone Township, Yangon Region, Myanmar.** |

4. Particulars of the proposed Land Lease

| | |
|---|---|
| (a) Type of Investment | **Breeder Farm and Sales of Broiler, Layer and Pig** |
| (b) Investment Location(s) | **Holding No. N-102/1, N-103/1, N-104/1 and N-102/2, N-104/3, Kwin No. 511-B, Auk Chin Kan North Kwin, Nyaung Napin Village Tract, Hmawbi Township, Yangon Region** |
| (c) Location(Ward, Township, State /Region) | **Holding No. N-102/1, N-103/1, N-104/1 and N-102/2, N-104/3, Kwin No. 511-B, Auk Chin Kan North Kwin, Nyaung Napin Village Tract, Hmawbi Township, Yangon Region** |
| (d) Area of Land | **(1)Production Area - 170 Acres (687966.20 m2)**<br>**(2)Myanmar Livestock Development Training Center - 30 Acres (121,405.80 m2)** |
| (e) Size and Number of Building (s) | **Annex 2.5** |
| (e) Value of building | **Building will be constructed by investor** |

5. To enclose land ownership and Land Grant , ownership evidences (except Industrial Zone) , (Annex 4.1)
   Land map and Land Lease Agreement (Draft) (Annex 4.3) and (Annex 4.2)

6. Whether it is sub-leased from the following person in regarding to Land Lease or not-






UTHAI TANTIPIMOLPHAN
MANAGING DIRECTOR

- ☐ Person who has the rights to use the Land or Building of the Government from Government Department and Organization in accordance with the national laws.
- ☐ Authorized Person to get the Sub License or Sub Lese of the building or land owned By the Government in accordance with the permission of the Government Department and Organization.

7. Land/Building lease rate (per square meter per year) **(1) Production area 170 Acre Kyats 889.58 / m2/ year**
**(2)Myanmar Livestock Development Training Center 30 Acres Kyats 296.53 /m2/ year**

8. Land Use Premium – ( LUP ) (If it is leased from the land belonged to Government Department / Organization the LUP shall be paid in cash by the lessee.)
Rate per Acre: **(1) Production area 170 Acre Kyats 612,000,000/ 170 Acres / year**
**(2) Myanmar Livestock Development Training Center 30 Acres Kyats 36,000,000/ 30 Acres / year**
**(1)Production Area (170 Acres) - Kyats 3,600,000 / Acre / year**
**(2)Myanmar Livestock Development Training Center (30Acres) - Kyats1,200,000/Acre/ year**

9. Whether it is agreed by original land lessor or land tenant not **Yes**

10. Proposal land or building use/lease period **30 years (renewal for two 5 years times subject to agreement between parties and approval from Myanmar Investment Commission)**

11. Whether it is the land located in the relevant business zone area such as Industrial Zone, Hotel Zone, Trade Zone and etc or not (To describe Zone) **Land owned by Livestock Breeding and Veterinary Department**




UTHAI TANTIPIMOLPHAN
MANAGING DIRECTOR




Signature

Name of Investor: Mr. Uthai Tantipimolphan

Designation: Managing Director

Department/Company (Seal/Stamp): UTHAI TANTIPIMOLPHAN MANAGING DIRECTOR




UTHAI TANTIPIMOLPHAN
MANAGING DIRECTOR




မွေးမြူရေးနှင့်ကုသရေးဦးစီးဌာန
မြို့နယ်ဦးစီးဌာနမှူးရုံး၊ မှော်ဘီမြို့
စာအမှတ်၊ ၃၆၁ / မဘ - မက / အမြဲ (၉)
ရက်စွဲ၊ ၂၀၁၈ ခုနှစ်၊ စက်တင်ဘာလ ၁၇ ရက်

သို့

မြေလွတ်၊ မြေလပ်နှင့်မြေရိုင်းများစီမံခန့်ခွဲရေးဗဟိုကော်မတီ
နေပြည်တော်

အကြောင်းအရာ။ **မွေးမြူရေးလုပ်ငန်းဆောင်ရွက်ရန်အတွက် မြေလွတ်၊ မြေလပ်နှင့်မြေရိုင်း အသုံးပြုခွင့်လျှောက်ထားခြင်း။**

၁။ လျှောက်ထားသောမြေနေရာသည် မွေးမြူရေးနှင့်ကုသရေးဦးစီးဌာနမှ မွေးမြူရေးလုပ်ငန်းသုံးမြေအဖြစ်(၁၇၀.၀၀) ဧက အသုံးပြုရန်ဖြစ်ပြီး ကွင်းအမှတ်(၅၁၁-ခ) အောက်ချင်းကံမြောက်ကွင်း ဦးပိုင်အမှတ်(N-၁၀၂/၁၊ N-၁၀၃/၁၊ N-၁၀၄/၁) တွင်ပါဝင်ပြီး ညောင်နှစ်ပင်ကျေးရွာအုပ်စု၊ မှော်ဘီမြို့နယ်၊ မြောက်ပိုင်းခရိုင်၊ ရန်ကုန်တိုင်းဒေသကြီးတွင်တည်ရှိပါသည်။

၂။ သို့ဖြစ်ပါ၍ မြေဧရိယာ(၁၇၀.၀၀) ဧက နှင့်စပ်လျဉ်း၍ မွေးမြူရေးနှင့်ကုသရေးဦးစီးဌာနမှ မွေးမြူရေး လုပ်ငန်းသုံးမြေအဖြစ် အသုံးပြုခွင့်ရရှိရေး မြေလွတ်၊ မြေလပ်နှင့် မြေရိုင်းများ စီမံခန့်ခွဲရေး ဗဟိုကော်မတီသို့ တင်ပြခြင်းဖြစ်ပြီး ခွင့်ပြုမိန့်ရရှိပါက လုပ်ထုံးလုပ်နည်းနှင့်အညီ မွေးမြူရေးလုပ်ငန်းသုံးမြေအဖြစ် ဆက်လက် စီမံအကောင်အထည်ဖော်ဆောင်ရွက်သွားမည် ဖြစ်ပါကြောင်း အစီရင်ခံ တင်ပြအပ်ပါသည်။

ပူးတွဲပါ။
(က) လုပ်ပိုင်ခွင့်၊ အသုံးပြုခွင့်လျှောက်လွှာ ပုံစံ - ၂
(ခ) မွေးမြူရေးလုပ်ငန်းသုံးမြေလျှောက်ထားရန် မြေပုံကြမ်း(၂) ပုံ
(ဂ) လျှောက်ထားသူ၏ ထွက်ဆိုချက်
(ဃ) လျှောက်ထားသူ၏ ကတိဝန်ခံချက်
(င) လျှောက်ထားသူ၏ ကိုယ်ရေးရာဇဝင်အကျဉ်း

ဒေါက်တာ ငါဝါအုန်း
မြို့နယ်ဦးစီးဌာနမှူး
မွေးမြူရေးနှင့်ကုသရေးဦးစီးဌာန
မှော်ဘီမြို့

မိတ္တူကို-

တိုင်းဒေသကြီးဦးစီးမှူး၊ မွေးမြူရေးနှင့်ကုသရေးဦးစီးဌာန၊ ရန်ကုန်တိုင်းဒေသကြီး



ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
စိုက်ပျိုးရေး၊မွေးမြူရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန
မွေးမြူရေးနှင့်ကုသရေးဦးစီးဌာန

စာအမှတ်၊ ညကခ/စထက/ ခြံစက်ရုံ (၅၇/၂၀၁၉)
ရက်စွဲ ၊ ၂၀၁၉ ခုနှစ်၊ ဧပြီလ ၈ ရက်

အကြောင်းအရာ။ မွေးမြူရေးနှင့်ကုသရေးဦးစီးဌာနနှင့် Myanmar C.P Livestock Co., Ltd. တို့အကြား ညောင်နှစ်ပင် မွေးမြူရေးဇုန်(၂၀၀)ကေတွင် ခေတ်မီမွေးမြူရေး သင်တန်းကျောင်းနှင့် မွေးမြူရေးခြံလုပ်ငန်းဆောင်ရွက်ရန် ငှားရမ်းရေးဆိုင်ရာ သဘောတူစာချုပ် ချုပ်ဆိုဆောင်ရွက်နိုင်ရေးအတွက် လိုအပ်သောအချက်အလက် များအား ပေးပို့ပြန်ကြားပေးနိုင်ပါရန် အကြောင်းကြားခြင်း

ရည်ညွှန်းချက် ။ မွေးမြူရေးနှင့်ကုသရေးဦးစီးဌာန၏ (၂-၄-၂၀၁၉)ရက်စွဲပါစာအမှတ်၊ ညကခ/ စထက/ခြံစက်ရုံ(၀၆၉/၂၀၁၉)

၁။ ရန်ကုန်တိုင်းဒေသကြီး၊ ညောင်နှစ်ပင်စိုက်ပျိုးမွေးမြူရေးဇုန်အတွင်းရှိ မြေဧရိယာ(၂၀၀)ကေတွင် စိုက်ပျိုးရေး၊ မွေးမြူရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန၊ မွေးမြူရေးနှင့်ကုသရေးဦးစီးဌာနနှင့် Myanmar C.P Livestock Co., Ltd. တို့အကြား ခေတ်မီမွေးမြူရေးသင်တန်းကျောင်းနှင့် မွေးမြူရေးခြံ လုပ်ငန်းဆောင်ရွက်ရန်အတွက် Myanmar C.P Livestock Co., Ltd. နှင့် ချုပ်ဆိုမည့် ငှားရမ်းခြင်း ဆိုင်ရာသဘောတူစာချုပ်(မူကြမ်း)အား ပြည်ထောင်စုရှေ့နေချုပ်ရုံး၏ ဥပဒေအကြံပြုချက်များနှင့် အညီ ပြင်ဆင်ပြုစု၍ ပြည်ထောင်စုဝန်ကြီးရုံးသို့ ဆောလျင်စွာ ပြန်လည်တင်ပြပေးနိုင်ရေးအတွက် ပြည်ထောင်စုရှေ့နေချုပ်ရုံး၏ အကြံပြုချက်အရ လူမှုပတ်ဝန်းကျင်မထိခိုက်စေရေးနှင့် လူမှုရေး တာဝန်ယူမှု **Corporate Social Responsibility** ဆိုင်ရာဆောင်ရွက်မည့် အချက်အလက်များအား ဌာနသို့ပေးပို့ဆောင်ရွက်နိုင်ပါရန် Myanmar C.P Livestock Co., Ltd. သို့ ရည်ညွှန်းပါစာဖြင့် အကြောင်းကြား ဆောင်ရွက်ခဲ့ပါသည်။

၂။ မွေးမြူရေးနှင့်ကုသရေးဦးစီးဌာနနှင့် Myanmar C.P Livestock Co., Ltd. တို့အကြား ညောင်နှစ်ပင်စိုက်ပျိုးမွေးမြူရေးဇုန်အတွင်းရှိ မြေဧရိယာ(၂၀၀)ကေ (ခေတ်မီမွေးမြူရေးသင်တန်းကျောင်း ဖွင့်လှစ်ဆောင်ရွက်ရန် မြေဧရိယာ(၃၀)ကေ၊ မွေးမြူရေးခြံလုပ်ငန်းဆောင်ရွက်ရန်(၁၇၀)ကေ)အား နှစ်ရှည်နှစ်(၃၀) ငှားရမ်းခြင်းဆိုင်ရာသဘောတူစာချုပ် ချုပ်ဆိုနိုင်ရန် နိုင်ငံတော်သမ္မတရုံး၏

ညွှန်ကြားချက်အမှတ်(၃/၂၀၁၈)နှင့်အညီ တင်ပြဆောင်ရွက်နိုင်ရေးအတွက် အောက်ဖော်ပြပါအချက်အလက်များအား (၈-၄-၂၀၁၉) ရက်နေ့အရောက်ပြုစုပေးပို့နိုင်ပါရန် အကြောင်းကြားပါသည်-

(က) ရင်းနှီးမြှုပ်နှံသူရရှိမည့် ဖြစ်နိုင်ခြေအကျိုးရလဒ်၊ အလုပ်အကိုင်အခွင့်အလမ်းဖန်တီးပေးနိုင်မှု အခြေအနေများ၊ လူမှုပတ်ဝန်းကျင်နှင့် ကျန်းမာရေးအား ထိခိုက်မှုမရှိစေရေးအတွက် ဆောင်ရွက်မည့် လုပ်ငန်းအစီအမံများ၊

(ခ) ညောင်နှစ်ပင်စိုက်ပျိုးမွေးမြူရေးဇုန်အတွင်းရှိ မြေဧရိယာ(၂၀၀)ကေတွင် (ခေတ်မီမွေးမြူရေးသင်တန်းကျောင်း ဖွင့်လှစ်ဆောင်ရွက်ရန် မြေဧရိယာ(၃၀)ကေ၊ မွေးမြူရေးခြံလုပ်ငန်းဆောင်ရွက်ရန်(၁၇၀)ကေ)အား မည်သည့်အတွက်ကြောင့်ငှားရမ်း လိုကြောင်းကိုရင်းနှီးမြှုပ်နှံမှုပမာဏနှင့် ခန့်မှန်းအရင်းကြေကာလတွက်ချက်မှုများ၊ စီးပွားရေးနှင့်ဘဏ္ဍာရေးဆိုင်ရာအချက်အလက်များ၊

ညွှန်ကြားရေးမှူးချုပ်(ကိုယ်စား)
မိုးဇော်၊ ညွှန်ကြားရေးမှူး

**MR. Uthai Tantipimolphan**
**Managing Director**
**Myanmar C.P Livestock Co., Ltd.**

မိတ္တူကို
ညွှန်ကြားရေးမှူးချုပ်ရုံး၊ မွေးမြူရေးနှင့်ကုသရေးဦးစီးဌာန
ဒုတိယညွှန်ကြားရေးမှူးချုပ်(စီမံ/မွေးဖွံ့)၊ မွေးမြူရေးနှင့်ကုသရေးဦးစီးဌာန
လက်ခံစာတွဲ
မျှောစာတွဲ

## မြေလွတ်၊ မြေလပ်နှင့် မြေရိုင်းများစီမံခန့်ခွဲရေးဗဟိုကော်မတီ

## အစိုးရကခွင့်ပြုသော ဥပဒေနှင့် ညီညွတ်သည့် အခြားလုပ်ငန်းများအတွက်

## လုပ်ပိုင်ခွင့်၊ အသုံးပြုခွင့်ပြုသော ခွင့်ပြုမိန့်

လုပ်ငန်းစာတွဲအမှတ်-----၃၅/ မလ/ -----၂၀၁၈-၂၀၁၉ ---ခုနှစ်၊ မှတ်ပုံတင်စာရင်းစာအုပ်တွင် -----၂၀ ၁၈-- ၂၀ ၁၉---- ခုနှစ် အမှတ်စဉ် -----၅၃----- အဖြစ် ရေးသွင်းပြီးပြီ။

အောက်ပါယေားတွင်ဖော်ပြသော ဧက---၃၀.၀၀---ခန့်ရှိ မြေလွတ်၊ မြေလပ်နှင့် မြေရိုင်းကို ကျောဘက်တွင် ဖော်ပြထားသည့် စည်းကမ်းချက်များနှင့်အညီ -----ရန်ကုန်----- တိုင်းဒေသကြီး/ ပြည်နယ်၊ ---မြောက်ပိုင်း----ခရိုင်၊ ----မှော်ဘီ---မြို့နယ်၊ ----ညောင်နှစ်ပင်---- ရပ်ကွက်/ ကျေးရွာနေ ဦး-----------၏ သား/ သမီး ဦး/ ဒေါ်/ အဖွဲ့အစည်း ----- မွေးမြူရေးနှင့် ကုသရေးဦးစီးဌာန------ အား --- မွေးမြူရေးသင်တန်းကျောင်း --- လုပ်ငန်း (၂၀၁၉ မှ ၂၀၄၉ ထိ) နှစ်ပေါင်း ( ၃၀ )နှစ် လုပ်ပိုင်ခွင့်ပြုလိုက်သည်။

### လုပ်ပိုင်ခွင့်၊ အသုံးပြုခွင့်ပြုသည့် မြေလွတ်၊ မြေလပ်၊ မြေရိုင်းနှင့် စပ်လျဉ်းသည့် အချက်အလက်များ

----ရန်ကုန်----- တိုင်းဒေသကြီး/ ပြည်နယ်၊ ----မြောက်ပိုင်း-----ခရိုင်၊ --- မှော်ဘီ--- မြို့နယ်

| ရပ်ကွက်/ ကျေးရွာအုပ်စု | ကွင်း | | ဦးပိုင်/ မြေကွက် အမှတ် | ဧရိယာ | | * နယ်နိမိတ် |
|---|---|---|---|---|---|---|
| | အမှတ် | အမည် | | ဧက | ဒသမ | |
| ၁ | ၂ | ၃ | ၄ | ၅ | ၆ | ၇ |
| ညောင်နှစ်ပင် | ၅၁၁-ခ | အောက်ချင်းကဲမြောက်ကွင်း | N-၁၀၂/၂<br>N-၁၀၄/၃ | ၃၀ | ၀၀ | သက်သေခံမြေပုံအတိုင်း |
| | | | | ၃၀ | ၀၀ | |

ပြီးသတ်မြေတိုင်းတာပြီးသောအခါ ။ [illegible] အမြောင်းအလဲရှိနိုင်ပ [illegible]

* သက်သေခံမြေပုံရှိလျှင် "သက်သေခံမြေပုံအတိုင်း" ဟု ရေးပါ။

## စည်းကမ်းချက်များ

၁။ မည်သည့်လုပ်ငန်းအတွက် လုပ်ကိုင်အသုံးပြုရန် ခွင့်ပြုခြင်း။ ----------မွေးမြူရေးသင်တန်းကျောင်းမြေ---------- ----------အဖြစ် အသုံးပြုရန်----------

၂။ လုပ်ကိုင်အသုံးပြုခွင့်ပြုသည့် မြေလွတ်၊ မြေလပ်နှင့် မြေရိုင်းဧရိယာ အနက် တစ်နှစ်လျှင်အနည်းဆုံး လုပ်ကိုင်အသုံးပြုရန်သတ်မှတ်ခြင်း။

- ပထမနှစ် ----------၄.၅၀ ဧက----------
- ဒုတိယနှစ် ----------၉.၀၀ ဧက----------
- တတိယနှစ် ----------၉.၀၀ ဧက----------
- စတုတ္ထနှစ် ----------၇.၅၀ ဧက----------

၃။ ခွင့်ပြုထားသည့်မြေကို သတ်မှတ်ထားသောလုပ်ငန်းမှအပ အခြားလုပ်ငန်းမလုပ်ကိုင်ရ။ အကယ်၍ ပြောင်းလဲလုပ်ကိုင်လိုလျှင် ကြိုတင်ခွင့်ပြုချက်ရယူရမည်။

၄။ သတ်မှတ်ထားသော အာမခံကြေးကို ပေးသွင်းရမည်။

၅။ မိမိလုပ်ကိုင်ခွင့် ရရှိသည့်မြေအတွက် သတ်မှတ်ထားသော မြေခွန်ကို သတ်မှတ်ကာလအတွင်း အပြေအကျေ ပေးဆောင်ရမည်။

၆။ ခွင့်ပြုထားသည့် မြေပေါ်တွင် လုပ်ကိုင်ရမည့် လုပ်ငန်းကို သတ်မှတ်ထားသောအချိန်အတွင်း ပြီးစီးအောင်လုပ်ကိုင်ရမည်။ အကယ်၍ သတ်မှတ်ထားသည့်ကာလအတွင်း မူလတင်ပြထားသော လုပ်ငန်းအစီအစဉ်အတိုင်း ဆောင်ရွက်ခြင်း မရှိပါက တင်သွင်းထားသော အာမခံကြေးကို နိုင်ငံတော်ဘဏ္ဍာငွေအဖြစ် လိုအပ်သလို သိမ်းယူခြင်းခံရမည့်အပြင် လုပ်ပိုင်ခွင့်၊ အသုံးပြုခွင့်ပေးထားသော မြေကို ပြန်လည်သိမ်းယူခြင်းခံရမည်။

၇။ ခွင့်ပြုထားသည့်မြေကို ပြည်ထောင်စုအစိုးရအဖွဲ့၏ ခွင့်ပြုချက်မရရှိဘဲ ရောင်းချခြင်း၊ ပေါင်နှံခြင်း၊ ပေးကမ်းခြင်း၊ အငှားချထားခြင်း၊ အခြားနည်းဖြင့် လွှဲပြောင်းခြင်း သို့မဟုတ် ခွဲစိတ်ခြင်းမပြုရ။

၈။ ခွင့်ပြုထားသည့်လုပ်ငန်းအမျိုးအစားနှင့် ယင်းနှင့်ဆက်နွယ်လျက်ရှိသော စီးပွားရေးလုပ်ငန်းကိုသာ လုပ်ကိုင်ရမည်။

၉။ ခွင့်ပြုချက်ရယူထားသော လုပ်ငန်းမှအပ မြေပေါ်မြေအောက်ရှိ အခြားသယံဇာတပစ္စည်းများကို ထုတ်ယူခြင်းမပြုရ။

၁၀။ ခွင့်ပြုထားသောမြေအတွင်း သယံဇာတပစ္စည်းများနှင့် ရှေးဟောင်းယဉ်ကျေးမှု အမွေအနှစ်များ တွေ့ရှိ၍ ပြည်ထောင်စုအစိုးရအဖွဲ့က လိုအပ်လျှင် ခွင့်ပြုထားသောမြေအနက် လိုအပ်မည့် မြေဧရိယာကို ပြန်လည်သိမ်းယူသည့်အခါ ပြည်ထောင်စုအစိုးရအဖွဲ့၏ ညွှန်ကြားချက်အတိုင်း ပြန်လည်အပ်နှံရမည်။

၁၁။ ခွင့်ပြုထားသောမြေအတွင်း နိုင်ငံတော်၏အကျိုးငှာ အခြေခံအဆောက်အဦ စီမံကိန်း သို့မဟုတ် အထူးစီမံကိန်းလုပ်ငန်းများ ဆောင်ရွက်ရန် လိုအပ်ခြင်းအတွက် ခွင့်ပြုထားသောမြေအနက် လိုအပ်မည့် မြေဧရိယာကို ပြန်လည်သိမ်းယူသည့်အခါ ပြည်ထောင်စုအစိုးရအဖွဲ့၏ ညွှန်ကြားချက်အတိုင်း ပြန်လည်အပ်နှံရမည်။

၁၂။ လုပ်ပိုင်ခွင့်၊ အသုံးပြုခွင့်ရရှိပြီးနောက် ဆက်လက်လုပ်ကိုင် အသုံးပြုနိုင်ခြင်းမရှိပါက ဗဟိုကော်မတီသို့ ပြန်လည်အပ်နှံရမည်။

၁၃။ မြေလွတ်၊ မြေလပ်နှင့် မြေရိုင်းများ စီမံခန့်ခွဲရေးဗဟိုကော်မတီ၏ (၅ - ၂ -၂၀၁၉)ရက်နေ့ အစည်းအဝေးအမှတ်စဉ်( ၁၄/၂၀၁၉)ဆုံးဖြတ်ချက်အမှတ် ----၁၁(စ)---- အရ လက်မှတ်ရေးထိုး ထုတ်ပေးခြင်း ဖြစ်ပါသည်။



စာအမှတ်၊ ၁၉/ မလရ-၁၆ (၀၀၆ /၂၀၁၉)
ရက်စွဲ၊ ၂၀၁၉ ခုနှစ်၊ ဖေဖော်ဝါရီလ (၁၄) ရက်

ဥက္ကဋ္ဌ/အတွင်းရေးမှူး
မြေလွတ်၊မြေလပ်နှင့်မြေရိုင်းများစီမံခန့်ခွဲရေးဗဟိုကော်မတီ

## မြေလွတ်၊ မြေလပ်နှင့်မြေရိုင်းများစီမံခန့်ခွဲရေးဗဟိုကော်မတီ

## မွေးမြူရေးလုပ်ငန်းအတွက် အသုံးပြုခွင့်ပေးသော ခွင့်ပြုမိန့်

လုပ်ငန်းစာတွဲအမှတ် ---၃၄/ မလ/------- ၂၀၁၈ - ၂၀၁၉ ------ ခုနှစ်၊ မှတ်ပုံတင်စာရင်းစာအုပ်တွင် ၂၀ ၁၈----- ၂၀ ၁၉----- ခုနှစ် အမှတ်စဉ် ------၅၄------ အဖြစ် ရေးသွင်းပြီး။

အောက်ပါဇယားတွင် ဖော်ပြသောဧက ----၁၇၀.၀၀--- ခန့်ရှိ မြေလွတ်၊ မြေလပ်နှင့် မြေရိုင်းကို ကျောဘက်တွင် ဖော်ပြထားသည့် စည်းကမ်းချက်များနှင့်အညီ -----ရန်ကုန်----- တိုင်းဒေသကြီး/ပြည်နယ်၊ -----မြောက်ပိုင်း-----ခရိုင်၊------မှော်ဘီ------ မြို့နယ်၊----- ညောင်နှစ်ပင်------ ရပ်ကွက်/ကျေးရွာနေ ဦး----၏ သား/သမီး ဦး/ဒေါ်/ အဖွဲ့အစည်း ----မွေးမြူရေးနှင့် ကုသရေးဦးစီးဌာန--- အား ----ကြက်၊ ဝက် ----မွေးမြူရန် (၂၀၁၉ မှ ၂၀၄၉ ထိ) နှစ်ပေါင်း ( ၃၀ ) နှစ် လုပ်ပိုင်ခွင့်ပြုလိုက်သည်။

### အသုံးပြုခွင့်ပြုသည့် မြေလွတ်၊ မြေလပ်၊ မြေရိုင်းနှင့်စပ်လျဉ်းသည့် အချက်အလက်များ

----ရန်ကုန်---- တိုင်းဒေသကြီး/ပြည်နယ်၊ ---မြောက်ပိုင်း---ခရိုင်၊ ----မှော်ဘီ---- မြို့နယ်

| ရပ်ကွက်/ကျေးရွာအုပ်စု | ကွင်း | | ဦးပိုင်/မြေကွက်အမှတ် | ဧရိယာ | | * နယ်နိမိတ် |
|---|---|---|---|---|---|---|
| | အမှတ် | အမည် | | ဧက | ဒသမ | |
| ၁ | ၂ | ၃ | ၄ | ၅ | ၆ | ၇ |
| ညောင်နှစ်ပင် | ၅၁၁-ခ | အောက်ချင်းကံမြောက်ကွင်း | N-၁၀၂/၁<br>N-၁၀၃/၁<br>N-၁၀၄/၁ | ၁၇၀ | ၀၀ | သက်သေခံမြေပုံအတိုင်း |
| | | | | ၁၇၀ | ၀၀ | |

* သက်သေခံမြေပုံရှိလျှင် "သက်သေခံမြေပုံအတိုင်း"ဟု ရေးပါ။

## စည်းကမ်းချက်များ

| | | |
|---|---|---|
| ၁။ | မည်သည့်မွေးမြူရေးလုပ်ငန်းအတွက် အသုံးပြုရန်ခွင့်ပြုခြင်း။ | ---------------- ကြက်၊ ဝက်မွေးမြူရန်------------ |
| ၂။ | အသုံးပြုခွင့်ပြုသည့် မြေလွတ်၊ မြေလပ်၊မြေရိုင်းဧရိယာအနက် တစ်နှစ်လျှင်အနည်းဆုံးမည်မျှမွေးမြူ လုပ်ကိုင်ရမည်ဟုသတ်မှတ်ခြင်း | ပထမနှစ် ---------- ၂၅.၅၀----------------------<br>ဒုတိယနှစ် ----------၅၁.၀၀----------------------<br>တတိယနှစ်----------၅၁.၀၀----------------------<br>စတုတ္ထနှစ် --------- ၄၂.၅၀---------------------- |

၃။ ခွင့်ပြုထားသည့်မြေကို သတ်မှတ်ထားသော လုပ်ငန်းမှအပ အခြားလုပ်ငန်း မလုပ်ကိုင်ရ။ အကယ်၍ ပြောင်းလဲလုပ်ကိုင်လိုလျှင် ကြိုတင်ခွင့်ပြုချက်ရယူရမည်။

၄။ သတ်မှတ်ထားသော အာမခံကြေးကို ပေးသွင်းရမည်။

၅။ မိမိလုပ်ကိုင်ခွင့် ရရှိသည့် မြေအတွက် သတ်မှတ်ထားသော မြေခွန်ကို သတ်မှတ်ကာလအတွင်း အပြေအကျေ ပေးဆောင်ရမည်။

၆။ ခွင့်ပြုထားသည့်မြေပေါ်တွင် လုပ်ကိုင်ရမည့် လုပ်ငန်းကို သတ်မှတ်ထားသော အချိန်အတွင်း ပြီးစီးအောင်လုပ်ကိုင်ရမည်။ အကယ်၍ သတ်မှတ်ထားသည့် ကာလအတွင်း မူလတင်ပြထားသော လုပ်ငန်းအစီအစဉ်အတိုင်း ဆောင်ရွက်ခြင်းမရှိပါက တင်သွင်းထားသော အာမခံကြေးကို နိုင်ငံတော်ဘဏ္ဍာငွေအဖြစ် လိုအပ်သလို သိမ်းယူခြင်းခံရမည့်အပြင် လုပ်ပိုင်ခွင့်၊ အသုံးပြုခွင့် ပေးထားသော မြေကို ပြန်လည်သိမ်းယူခြင်းခံရမည်။

၇။ ခွင့်ပြုထားသည့်မြေကို ပြည်ထောင်စုအစိုးရအဖွဲ့၏ ခွင့်ပြုချက်မရရှိဘဲ ရောင်းချခြင်း၊ ပေါင်နှံခြင်း၊ ပေးကမ်းခြင်း၊ အငှားချထားခြင်း၊ အခြားနည်းဖြင့် လွှဲပြောင်းခြင်း သို့မဟုတ် ခွဲစိတ်ခြင်းမပြုရ။

၈။ မွေးမြူရေးအတွက် ခွင့်ပြုထားသောမြေကို မွေးမြူရေးနှင့် ယင်းမွေးမြူရေးနှင့် ဆက်နွှယ်လျက်ရှိသော စီးပွားရေးလုပ်ငန်းများအတွက်သာ အသုံးပြုရမည်။

၉။ ခွင့်ပြုချက်ရယူထားသော လုပ်ငန်းမှအပ မြေပေါ်မြေအောက်ရှိ အခြားသယံဇာတပစ္စည်းများကို ထုတ်ယူခြင်းမပြုရ။

၁၀။ ခွင့်ပြုထားသောမြေအတွင်း သယံဇာတပစ္စည်းများနှင့် ရှေးဟောင်းယဉ်ကျေးမှု အမွေအနှစ်များ တွေ့ရှိ၍ ပြည်ထောင်စုအစိုးရအဖွဲ့က လိုအပ်လျှင် ခွင့်ပြုထားသောမြေအနက် လိုအပ်မည့်မြေဧရိယာကို ပြန်လည် သိမ်းယူသည့်အခါ ပြည်ထောင်စုအစိုးရအဖွဲ့၏ ညွှန်ကြားချက်အတိုင်း ပြန်လည်အပ်နှံရမည်။

၁၁။ ခွင့်ပြုထားသောမြေအတွင်း နိုင်ငံတော်၏အကျိုးငှာ အခြေခံအဆောက်အဦ စီမံကိန်း သို့မဟုတ် အထူးစီမံကိန်းလုပ်ငန်းများ ဆောင်ရွက်ရန် လိုအပ်ခြင်းအတွက် ခွင့်ပြုထားသောမြေအနက် လိုအပ်မည့် မြေဧရိယာကို ပြန်လည်သိမ်းယူသည့်အခါ ပြည်ထောင်စုအစိုးရအဖွဲ့၏ ညွှန်ကြားချက်အတိုင်း ပြန်လည်အပ်နှံရမည်။

၁၂။ လုပ်ပိုင်ခွင့်၊ အသုံးပြုခွင့်ရရှိပြီးနောက် ဆက်လက်လုပ်ကိုင်အသုံးပြုနိုင်ခြင်းမရှိပါက ဗဟိုကော်မတီသို့ ပြန်လည်အပ်နှံရမည်။

၁၃။ မြေလွတ်၊ မြေလပ်နှင့် မြေရိုင်းများ စီမံခန့်ခွဲရေးဗဟိုကော်မတီ၏ ( ၅ - ၂ - ၂၀၁၉ )ရက်နေ့ အစည်းအဝေးအမှတ်စဉ်( ၁၃/ ၂၀၁၉ )ဆုံးဖြတ်ချက်အမှတ် ၁၁၆၈၁ အရ လက်မှတ်ရေးထိုး ထုတ်ပေးခြင်းဖြစ်ပါသည်။

ရုံးထံဆိပ်



စာအမှတ်၊ ၁၉/ မလရ-၀၆ (၀၀၄ /၂၀၁၉)
ရက်စွဲ၊ ၂၀၁၉ ခုနှစ်၊ ဖေဖော်ဝါရီလ (၁၄) ရက်

ဥက္ကဋ္ဌ/အတွင်းရေးမှူး
မြေလွတ်၊မြေလပ်နှင့်မြေရိုင်းများစီမံခန့်ခွဲရေးဗဟိုကော်မတီ

 မြေစာရင်းပုံစံ - ၁၀၅



2017 - 094036

သက်သေခံ
မှန်ကန်ကြောင်း ―――― သောလက်ရှိမြေပုံတွင် ယခုနှစ်အသုံးပြုသော ဦးပိုင်မြေပုံ
သက်သေမဲ့ လက်ခံရေးကူးရန်ပုံစံ

DALMS



ကျေးရွာအုပ်စု - ၁၉၀, ဆွာဘင်နှပ်ပင်ကျေးရွာအုပ်စု၊ စကေး - ၁၆ လက္ခ = ၁မိုင်

| | |
|---|---|
| တိုင်းဒေသကြီး/ပြည်နယ် ရန်ကုန် | |
| ခရိုင် မြောက်ပိုင်းခရိုင် | |
| မြို့နယ်/မြို့နယ်ခွဲ မှော်ဘီ | |
| ရပ်ကွက်/ကျေးရွာအုပ်စု ဆွာဘင်နှပ်ပင် | |
| ကွင်း/အကွက်အမှတ်နှင့်အမည် ၅၁၀, ဆောက်ချင်းကဲ မြောက်ကွင်း | |
| ဦးပိုင်အမှတ်/မြေကွက်အမှတ် N-၁၀၂/၂ + N-၁၀၄/၃ | |

ဖူးဆွဲပါမြေပုံအရိုင်း

| ဦးပိုင်အမှတ် | အခွန်စည်းကြပ်ခံရသူ/ဖိုစ်ရှစ်/ဂရန်ရှင်/အငှားဂရန်ရှင်အမည် | ပိုင်ဆိုင်ခွင့် | မြေမျိုးနှင့်အတန်း | ဧရိယာ (ဧက) | မှတ်ချက် |
|---|---|---|---|---|---|
| N-၁၀၂/၂ | | NVFV | မြေရိုင်း | ၃၀.၀၀ | |
| N-၁၀၄/၃ | | " | " | | |
| | | | | | |
| | | | | ၃၀.၀၀ ဧက | |

| | |
|---|---|
| ရေးကူးပေးသည့်အကြောင်းအရာ | မြေလွတ်၊ မြေလပ် နှင့် မြေရိုင်း သဘောတရားနည်း သုံး မွေးမြူရေး သင်တန်းကျောင်း ဖြစ် လျှောက်ထားရန်။ |

(အထက်ဖော်ပြပါအကြောင်းအရာအတွက်သာ အသုံးပြုခွင့်ရှိသည်)

လျှောက်ထားသူအမည် - ဦးမိုးဇော် (မွေး မြူရေး နှင့် ကုသရေး ဦးစီးဌာန ကိုယ်စား)
လျှောက်လွှာတင်သည့်နေ့စွဲ - ၄.၂.၂၀၁၉
လျှောက်ထားသူသို့ထုတ်ပေးသည့်နေ့စွဲ - ၈.၂.၂၀၁၉
ယခုအထက်တွင်ပြဆိုသောမြေပုံမှာ မှန်ကန်သောမူရင်း ရေးကူးထားသော (၂၀၁၈-၁၉) ခုနှစ် အတွက် ကောက်ယူဆောင်တွဲကိုင်းမြင်း မြေပုံဖြစ်ကြောင်း သက်သေခံလက်မှတ် ရေးထိုးပါသည်။

မြေတိုင်း - ၄

အုပ်စုတွဲထိန်း/မြေတိုင်းစာရေး လက်မှတ်
နေ့စွဲ -

ရုံးတံဆိပ်

တိုက်ဆိုင်စစ်ဆေးပြီး မှန်ကန်ပါသည်။
လက်ထောက်ဦးစီးမှူး လက်မှတ် -
နေ့စွဲ -
လက်ထောက်ဦးစီးမှူး

စိစစ်အတည်ပြုပါသည်။
မြို့နယ်လယ်ယာမြေစီမံခန့်ခွဲရေးနှင့်စာရင်းအင်းဦးစီးဌာနမှူးလက်မှတ်
နေ့စွဲ ၈.၂.၂၀၁၉

ကွင်းအမှတ် - ၅၁၀
ဆောက်ချင်းကဲ မြောက်ကွင်း
ဆွာဘင်နှပ်ပင်ကျေးရွာအုပ်စု
မှော်ဘီ မြို့နယ်
ရန်ကုန် မြောက်ပိုင်းခရိုင်
စကေး - ၁၆ လက္ခ = ၁မိုင်

ဥက္ကာ/ဝက် မွေး မြူရေး လုပ်ငန်း လျှောက်ထားသည့်မြေနေရာ
N-၁၀၂/၈
N-၁၀၄/၁
N-၁၀၆ ကော်မှု သီး နှံ မှ ဖြိုး မြို့ ဦးစီး ဌာန
N-၁၀၂/၂
A
N-၁၀၄/၃
N-၁၀၅ နယ်ပယ်/ဝည် ပဇိဝန်ဖြိုး ဌာန
မွေး မြူရေး သင်တန်း ကျောင်း ဖြစ်လျှောက်ထားသည့်မြေနေရာ
ဝ.ယ.က သတ္တု ရန်ကုန်သို့
သမိုးဘသးညီယာ လမ်းသို့
ကြာတကန်ကျေးရွာ
လျှောက်ထားသည့်မြေနေရာ - - - A

မြေစာရင်းပုံစံ - ၁၀၅

2017 - 0944838

မှန်ကန်ကြောင်း သက်သေခံ / သက်သေမခံ — သောလက်ရှိမြေပုံတွင် ယခုနှစ်အသုံးပြုသော ဦးပိုင်မြေပုံ လက်ခံရေးကူးရန်ပုံစံ

DALMS

ကျေးရွာအမှတ်-၁၉၀၊
ဥဒေါင်းစုပင်ကျေးရွာအုပ်စု။
စကေး- ၁၆ လက်မ = ၁မိုင်။

| တိုင်းဒေသကြီး/ပြည်နယ် | |
|---|---|
| ရန်ကုန် | |
| ခရိုင် | |
| မြောက်ပိုင်းခရိုင် | |
| မြို့နယ်/မြို့နယ်ခွဲ | |
| မှော်ဘီ | |
| ရပ်ကွက်/ကျေးရွာအုပ်စု | |
| ဥဒေါင်းစုပင် | |
| ကွင်း/အကွက်အမှတ်နှင့်အမည် | |
| ၅၁၁ ဆောက်ချုပ်းကဲ့မြောက်ကွင်း | |
| ဦးပိုင်အမှတ်/မြေကွက်အမှတ် | |
| N-၁၀၂/၁ + N-၁၀၃/၁ + N-၁၀၄/၁ | ပူးတွဲပါမြေပုံအတိုင်း |

| ဦးပိုင်အမှတ် | အခွန်စည်းကြပ်ခံရသူ/ပိုင်ရှင်/ဂရန်ရှင်/အငှားဂရန်ရှင်အမည် | ပိုင်ဆိုင်ခွင့် | မြေမျိုးနှင့်အတန်း | ဧရိယာ (ဧက) | မှတ်ချက် |
|---|---|---|---|---|---|
| N-၁၀၂/၁ | | NVFV | မြေရိုင်း | ၁၇၀.၀၀ | |
| N-၁၀၃/၁ | | " | " | | |
| N-၁၀၄/၁ | | " | " | | |
| | | | | | |
| | | | | ၁၇၀.၀၀ ဧက | |

| ရေးကူးပေးသည့်အကြောင်းအရာ | မြေကွက်မြောက်ဘက်မြေရိုင်း ... ဈေး/မြို့တော် တည်ဆောက်ရန် မြေလျှောက်ထားရန်။ |
|---|---|

(အထက်ဖော်ပြပါအကြောင်းအရာအတွက်သာ အသုံးပြုခွင့်ရှိသည်)

လျှောက်ထားသူအမည် - ဦးမိုးဇော် (ဈေး/မြို့တော်ဥပဒေကူ ... ဦးစီးဌာနကိုယ်စား)
လျှောက်လွှာတင်သည့်နေ့စွဲ - ၇.၂.၂၀၁၇
လျှောက်ထားသူသို့ထုတ်ပေးသည့်နေ့စွဲ - ၈.၂.၂၀၁၇

ယခုအထက်တွင်ပြဆိုသောမြေပုံမှာ မှန်ကန်သေချာစွာ ရေးကူးထားသော( ၂၀၁၈-၁၉ )ခုနှစ် အတွက် နောက်ဆက်တွဲတိုင်းခြင်းမြေပုံဖြစ်ကြောင်း သက်သေခံလက်မှတ် ရေးထိုးပါသည်။

အမှုတွဲထိန်း/မြေတိုင်းစာရေးလက်မှတ် -
နေ့စွဲ -

တိုက်ဆိုင်စစ်ဆေးပြီး မှန်ကန်ပါသည်။
လက်ထောက်ဦးစီးမှူးလက်မှတ် -
နေ့စွဲ -

စိစစ်အတည်ပြုပါသည်။
မြို့နယ်လယ်ယာမြေစီမံခန့်ခွဲရေးနှင့် စာရင်းအင်းဦးစီးဌာနမှူးလက်မှူးလက်မှတ်

နေ့စွဲ ၈ - ၂ - ၂၀၁၇

ကြာကန်စုကျေးရွာတိုင်း၍ ရွာမြေ လျှောက်ထားသည့်မြေနေရာ

N-၁၀၃/၂ N-၁၀၄/၂

N-၁၀၃/၁

N-၁၀၁ ရိုက်ကျိုးရေး ဦးစီးဌာန

A

N-၁၀၄/၁

N-၁၀၆ လယ်ယာ ... ဦးစီးဌာန

N-၁၀၂/၁

N-၁၀၂/၂ N-၁၀၄/၃

N-၁၀၅ နယ်စပ်/ဥဒေါင်းစုပင်ကြီး ဌာန

ကွင်းအမှတ်-၅၁၁
ဆောက်ချုပ်းကဲ့ မြောက်ကွင်း
ဥဒေါင်းစုပင်ကျေးရွာအုပ်စု
မှော်ဘီမြို့နယ်
ရန်ကုန်မြောက်ပိုင်းခရိုင်
စကေး - ၁၆ လက်မ = ၁မိုင်

လျှောက်ထားသည့်မြေနေရာ - - A

# ငှားရမ်းခြင်းသဘောတူစာချုပ် (မူကြမ်း)

ညောင်နှစ်ပင် မြေလွတ်ဧရိယာ(၃၀)ဧက ငှားရမ်းခြင်းသဘောတူစာချုပ်(ဤမှ နောင်တွင် "စာချုပ်"ဟုခေါ်ဆိုမည်)ကို ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၏ ဥပဒေများအရဖွဲ့စည်းထားသည့် ရုံးအမှတ်(၃၆)၊ နေပြည်တော်၊ ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတွင် မှတ်ပုံတင်ရုံးစိုက်ထားသော **မွေးမြူရေးနှင့်ကုသရေး ဦးစီးဌာန**၊ စိုက်ပျိုးရေး၊ မွေးမြူရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန( ဤမှစ၍ **အငှားချထားသူ**ဟု ခေါ်ဆိုမည်ဖြစ်ပြီး၊ ဤစာချုပ်နှင့် ဆန့်ကျင်ကွဲလွဲမှုမရှိပါက အဆိုပါအငှားချထားသူ ဆိုရာတွင် ယင်း၏ အရိုက်အရာဆက်ခံသူများ၊ တရားဝင်ကိုယ်စားလှယ်များနှင့် တာဝန်အပ်နှင်းခြင်း ခံရသူများပါဝင်သည်)၏ ကိုယ်စားဆောင်ရွက်သူ ညွှန်ကြားရေးမှူးချုပ် ဒေါက်တာရဲထွန်းဝင်းက တစ်ဖက်နှင့် မြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေအရ တရားဝင်မှတ်ပုံတင် ဖွဲ့စည်းတည်ထောင်ထားသည့် အမှတ်(၁၃၅)၊ ပြည်လမ်း၊ ရှစ်မိုင်ခွဲ၊ မရမ်းကုန်းမြို့နယ်၊ ရန်ကုန်မြို့ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံ၌ ကုမ္ပဏီရုံးဖွဲ့စည်း တည်ထောင်ထားသော **Myanmar C.P Livestock Co., Ltd.** (ဤမှစ၍ **အငှားချထားခြင်းခံရသူ**ဟု ခေါ်ဆိုမည်ဖြစ်ပြီး ဤစာချုပ်နှင့်ဆန့်ကျင်ကွဲလွဲမှုမရှိပါက ယင်းအငှား ချထားခြင်းခံရသူများဆိုရာတွင် ယင်း၏အရိုက်အရာဆက်ခံသူများ၊ တရားဝင်ကိုယ်စားလှယ်များနှင့် တာဝန်အပ်နှင်းခြင်း ခံရသူများပါဝင်သည်)၏ ကိုယ်စားဆောင်ရွက်သူ မန်နေဂျင်းဒါရိုက်တာ Mr. UTHAI TANTI PIMOLPHAN , Passport No.(AB 1541203) ကတစ်ဖက်တို့သည် ခုနှစ်၊ လ ( )ရက်နေ့တွင် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၊ နေပြည်တော်၌ အောက်ပါ သဘောတူညီချက်များနှင့်အညီ နှစ်ဖက်သဘောတူစာချုပ် ချုပ်ဆိုကြပါသည်။

မွေးမြူရေးနှင့်ကုသရေးဦးစီးဌာနက ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၌ ဖွဲ့စည်းထားသော ၁၀၀%(တစ်ရာရာခိုင်နှုန်း) နိုင်ငံခြားပိုင် ပုဂ္ဂလိကကုမ္ပဏီလီမိတက်ဖြစ်သည့် Myanmar C.P Livestock Co., Ltd. အား ရန်ကုန်တိုင်းဒေသကြီး၊ မှော်ဘီမြို့နယ်၊ ညောင်နှစ်ပင် စိုက်ပျိုးမွေးမြူရေးဇုန် မြေဧက (၂၀၀)အနက် (၃၀)ဧကတွင် ခေတ်မီမွေးမြူရေးသင်တန်းကျောင်းများ ဖွင့်လှစ်ရန် ဆောင်ရွက်ရန် ရည်ရွယ်ချက်ဖြင့် မြေဧက(၃၀)ဧကအား ငှားရမ်းဆောင်ရွက်သွားမည်ဖြစ်ပါသည်။

အငှားချထားခြင်းခံရသူက စာချုပ်ပါသဘောတူညီချက်များ၊ စည်းကမ်းချက်များအရ ငှားရမ်း ထားသော ညောင်နှစ်ပင် စိုက်ပျိုးမွေးမြူရေးဇုန် မြေဧက (၂၀၀)အနက် (၃၀)ဧကတွင် ခေတ်မီ မွေးမြူရေးသင်တန်းကျောင်းများ ဖွင့်လှစ်ရန်အား ဆောင်ရွက်သွားရန် သဘောတူပါသည်။

အငှားချထားသူကလည်း အထက်ဖော်ပြပါ ခြံမြေတွင် တရားဝင် အကျိုးသက်ဆိုင်မှုရှိကြောင်း ကိုယ်စားပြုအာမခံပါသည်။

သို့ဖြစ်သည့်အားလျော်စွာ စာချုပ်ဝင်များသည် ဤစာချုပ်ကို အောက်ပါအတိုင်း နှစ်ဖက် သဘောတူ ချုပ်ဆိုကြပါသည်-

## အပိုဒ် - ၁

## မြေငှားခပရီမီယံကြေး၊ ငှားရမ်းခနှင့် ငွေပေးချေခြင်းစည်းကမ်းများ

၁။ မြေငှားခပရီမီယံကြေး၊ ငှားရမ်းခနှင့် ငွေပေးချေခြင်းစည်းကမ်းများမှာ အောက်ဖော်ပြပါအတိုင်း ဖြစ်ပါသည်-

(က) မြေငှားခပရီမီယံကြေးသည် အဆိုပြု ရင်းနှီးမြှုပ်နှံမှုပမာဏ ၏ ၁ % အမေရိကန်ဒေါ်လာ (၃၀,၀၀၀) (အမေရိကန်ဒေါ်လာ သုံးသောင်းတိတိ) ဖြစ်သည်၊ မြေငှားခ ပရီမီယံကြေးအား ဤစာချုပ်ကို နှစ်ဖက်စာချုပ်ဝင်များက လက်မှတ်ရေးထိုးချုပ်ဆိုပြီး (၃)လ အတွင်း အငှားချထားခြင်းခံရသူမှ တစ်လုံးတစ်ခဲတည်း ပေးသွင်းရပါမည်။

(ခ) ညောင်နှစ်ပင် မြေလွတ်ဧရိယာ(၃၀)ဧက ငှားရမ်းခမှာ(၁)နှစ်လျှင် ငွေ ကျပ်(၃၆၀)သိန်း ဖြစ်ပါသည်။

(ဂ) ညောင်နှစ်ပင် မြေလွတ်ဧရိယာ(၃၀) အား တရားဝင်အငှား ချထားပြီးသည့်အခါ နှစ်ဖက်စာချုပ်ဝင်များ သဘောတူလက်မှတ် ရေးထိုးသည့်နေ့မှ (၁)လအတွင်း (၁)နှစ်စာ ငှားရမ်းခငွေကျပ်(၃၆၀)သိန်းအား မြန်မာ့စီးပွားရေးဘဏ်၊ နေပြည်တော်ရှိ မွေးမြူရေးနှင့်ကုသရေးဦးစီးဌာန၊ ငွေစာရင်းအမှတ် MD-010839 သို့ တစ်လုံး တစ်ခဲတည်း ပေးသွင်းရပါမည်။

(ဃ) ကျန်ရှိသည့် နှစ်စဉ်ငှားရမ်းခများအား ပေးသွင်းထားသည့် ငှားရမ်းခ(၁)နှစ်ပြည့်သည့် နေ့မှစ၍ နှစ်စဉ်ငှားရမ်းခကို (၃)လပတ်အသီးသီးရှိ ပထမလများ၏ ပထမရက်သတ္တပတ်တွင် အငှားချထားသူအား (၃)လစာကို (၃)လလျှင်တစ်ကြိမ် မြန်မာ့စီးပွားရေးဘဏ်၊ နေပြည်တော်ရှိ မွေးမြူရေးနှင့်ကုသရေးဦးစီးဌာန၊ ငွေစာရင်းအမှတ် MD-010839 သို့ ထပ်မံပေးသွင်းရပါမည်။

(င) ငှားရမ်းခပေးသွင်းရမည့်သတ်မှတ်ရက်ထက် (၅)ရက်ကျော်လွန်ပါက (၁)ရက် နောက်ကျတိုင်း ပေးသွင်းရမည့်ငှားရမ်းခ (၁)နှစ်စာငှားရမ်းခ၏(၁%)ကို နောက်ကျ ဒဏ်ကြေးအဖြစ် အငှားချထားသူသို့ ပေးဆောင်ရပါမည်။

(စ) ငှားရမ်းသက်တမ်း(၅)နှစ်ပြည့်တိုင်း နှစ်စဉ်ငှားရမ်းခကို ပြန်လည်သုံးသပ်မည်ဖြစ်ပြီး ငှားရမ်းခ တိုးသည်ဖြစ်စေ၊ လျော့သည်ဖြစ်စေ နှစ်စဉ်ငှားရမ်းခသည် ပြီးခဲ့သော နှစ်စဉ်ငှားရမ်းခ၏ ၁၅% (တစ်ဆယ့်ငါးရာခိုင်နှုန်း)ထက် မပိုစေရပါ။

## အပိုဒ် - ၂
## အငှားချထားခြင်းခံရသူ၏ တာဝန်ဝတ္တရားများ

၂။ အငှားချထားခြင်းခံရသူသည် အငှားချထားသူနှင့် အောက်ပါအတိုင်း ဆောင်ရွက်ရန် သဘောတူပါသည်-

(က) အငှားချထားခြင်းခံရသူသည် ဖော်ပြပါငှားရမ်းခကို သတ်မှတ်ထားသောနှုန်းနှင့် နေ့ရက် များတွင် ပေးသွင်းရမည်ဖြစ်ပြီး၊ သက်ဆိုင်ရာအာဏာပိုင်များက ကောက်ခံသော အခြားဝန်ဆောင်မှုများအတွက် ကျသင့်သောအဖိုးအခများကို ပေးဆောင်ရန်တာဝန် ရှိပါသည်။

(ခ) ယခု နှစ်ရှည်ငှားရမ်းထားသော ညောင်နှစ်ပင် မြေလွတ်ဧရိယာ(၃၀)ဧက၏ အားလုံး ဖြစ်စေ၊ တစ်စိတ်တစ်ပိုင်းဖြစ်စေ ထပ်ဆင့်ငှားရမ်းခြင်း၊ နေရာချထားခြင်း (သို့မဟုတ်) လွှဲပြောင်းခြင်း မပြုလုပ်ရပါ။

(ဂ) အငှားချထားခြင်းခံရသူသည် ငှားရမ်းထားသည့် မြေဧရိယာအား လုံခြုံမှုရှိစေရန် မိမိအစီအစဉ်ဖြင့် ခြံစည်းရိုးခတ်ကာရံဆောင်ရွက်ရမည်။ အငှားချထားသူမှ အငှားချထားခြင်းခံရသူသို့ ညောင်နှစ်ပင် မြေလွတ်ဧရိယာ(၃၀)ဧကအား ငှားရမ်းဆောင်ရွက် ရာတွင် ကျူးကျော်များမရှိပဲ ငှားရမ်းဆောင်ရွက်ခဲ့ခြင်းဖြစ်၍ ငှားရမ်းမြေဧရိယာအတွင်း ကျူးကျော်နေထိုင်သူများ မဝင်ရောက်နိုင်စေရန် ဆောင်ရွက်သွားရမည်ဖြစ်ပြီး ကျူးကျော်နေထိုင်သူများ ဝင်ရောက်ခဲ့ပါက အငှားချထားခြင်းခံရသူ၏ တာဝန်သာဖြစ်၍ အငှားချထားသူ၏ အစီအစဉ်ဖြင့် (၁)လအတွင်း ရှင်းလင်းဆောင်ရွက်ပေးရမည်။

(ဃ) ငှားရမ်းသည့်မြေအား လုပ်ကိုင်ဆောင်ရွက်ရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် (MIC)၏ တရားဝင်ခွင့်ပြုသည့်နေ့မှစ၍ လုပ်ငန်းများ စတင်ဆောင်ရွက်သွားရမည် ဖြစ်ပြီး မြေအတွင်း လိုအပ်သော အဆောက်အဦ၊ စက်ပစ္စည်း များကို ပြုပြင်၊ မွမ်းမံ၊ တိုးချဲ့ဆောက်လုပ်ခြင်း၊ စက်ပစ္စည်းအသစ်များ တပ်ဆင်ခြင်း လုပ်ငန်းများအတွက် မွေးမြူရေးနှင့်ကုသရေးဦးစီးဌာန၏ ခွင့်ပြုချက်ရရှိမှသာ ဆောင်ရွက်ရမည်။ အငှားချထားသူ၏ ကြိုတင်သဘောတူညီချက်၊ အတည်ပြုချက်မရရှိပဲ နှစ်ရှည်ငှားရမ်းမြေအတွင်း တည်ဆောက်ထားသည့် အဆောက်အဦများကို ပြောင်းလဲခြင်း(သို့မဟုတ်) တိုးချဲ့ဆောက်လုပ်ခြင်း မပြုရပါ။ မြေနှင့် အဆောက်အဦ၊ စက်ပစ္စည်းများအား ပြန်လည်လွှဲပြောင်းရာတွင် မူလအခြေ အနေတိုင်း ဌာနသို့ ပြန်လည်လွှဲပြောင်းအပ်နှံရမည်။

(င) နှစ်ရှည်ငှားရမ်းမြေနှင့် အဆောက်အဦများအတွင်း၌သော်လည်းကောင်း၊ တစ်စိတ်တစ်ပိုင်းကိုသော်လည်းကောင်း ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၏ တရားဥပဒေများနှင့် အညီသာလျှင် လုပ်ကိုင်ဆောင်ရွက်ရန် အာမခံရပါမည်။

(စ) အငှားချထားခြင်းခံရသူသည် လုပ်ငန်းဆောင်ရွက်ရန် အဆိုပြုလွှာတွင်ဖော်ပြထားသော လုပ်ငန်းများကိုသာ ဆောင်ရွက်ရမည်။ အခြားလုပ်ငန်းများ ဥပဒေနှင့်မလွတ်ကင်းသော လုပ်ငန်းများဆောင်ရွက်လုပ်ကိုင်ခြင်းအား မပြုလုပ်ရပါ။ ပြုလုပ်ပါက စာချုပ်ရပ်ဆိုင်းသွားမည်ဖြစ်ပါသည်။

(ဆ) မြေဆီလွှာကိုလည်းကောင်း၊ ရေနှင့်လေထုကိုလည်းကောင်း၊ စက်ရုံမှထွက်သော မီးခိုးများ၊ စွန့်ပစ်ပစ္စည်းများကြောင့်လည်းကောင်း၊ ပတ်ဝန်းကျင်ညစ်ညမ်းမှုမှ ကာကွယ် နိုင်ရန် အငှားချထားသူက အငှားချထားခြင်းခံရသူအား အသိပေးပြောကြားပြီး သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာက ချမှတ်ထားသည့် လုပ်ထုံးလုပ်နည်းများ နှင့်အညီ လိုက်နာဆောင်ရွက်ရမည်။

(ဇ) မြေခွန်နှင့်အလားတူ သဘောသဘာဝရှိသော ပေးရမည့်အခွန်ငွေမှအပ ရေရှည်ငှားရမ်းသော မြေအတွင်း တည်ဆောက်ထားသည့် အဆောက်အဦများအပေါ်ကို ဖြစ်စေ၊ တစ်စိတ်တစ်ဒေသကိုဖြစ်စေ ချမှတ်ထားသော အခွန်အကောက်အားလုံးကို ပေးသွင်းရပါမည်။

(ဈ) အငှားချထားခြင်းခံရသူသည် ညောင်နှစ်ပင် မြေလွတ်ဧရိယာ(၃၀)ဧက ငှားရမ်းခြင်း အတွက် ကုန်သွယ်လုပ်ငန်းခွန် ၅% (ငါးရာခိုင်နှုန်း)ကို တစ်နှစ်ချင်းအလိုက် ပြည်တွင်းအခွန်များဦးစီးဌာနသို့ ပေးသွင်းဆောင်ရွက်ရမည်။

(ည) အငှားချထားခြင်းခံရသူသည် ညောင်နှစ်ပင်မြေလွတ်ဧရိယာ(၃၀)ဧကတွင် တည်ဆောက်ဖွင့်လှစ်မည့် မွေးမြူရေးသင်တန်းကျောင်းတွင် မွေးမြူရေးနှင့်ကုသရေးဦးစီးဌာနမှ ဝန်ထမ်းများ တက်ရောက်နိုင်ရေး စီစဉ်ဆောင်ရွက်ပေးသွားရပါမည်။

## အပိုဒ် - ၃

## အငှားချထားသူ၏ တာဝန်ဝတ္တရားများ

၃။ အငှားချထားခြင်းခံရသူက ပေးရန်ရှိသော ငှားရမ်းခကိုပေးသွင်းပြီး ချုပ်ထားသော သဘောတူညီချက်များ၊ စည်းကမ်းချက်များအား လိုက်နာဆောင်ရွက်သည့်အားလျော်စွာ အငှားချထားသူ ကလည်း အငှားချထားခြင်းခံရသူနှင့် အောက်ပါအတိုင်းဆောင်ရွက်ရန် သဘောတူကြပါသည်-

(က) အငှားချထားခြင်းခံရသူသည် အငှားချထားစဉ်ကာလအတွင်း အငှားချထားသူ(သို့မဟုတ်) ယင်း၏ တရားဝင်ယုံကြည်အပ်နှံထားသူက အငှားချထားသူဘက်မှ မည်သို့သော နှောင့်ယှက်မှု၊ ဟန့်တားမှုမရှိစေဘဲ မြေ၊ အဆောက်အဦများကို ငြိမ်းချမ်းစွာ အသုံးပြုခွင့် ရှိပါသည်။

( ခ) မြေခွန်နှင့်အလားတူသဘောသဘာဝရှိသော ပေးဆောင်ရမည့်အခွန်ငွေများကို ပေးဆောင် ရပါမည်။

## အပိုဒ် - ၄

## ဝင်ရောက်စစ်ဆေးခွင့်

၄။ ငှားရမ်းစဉ်ကာလအတွင်း မွေးမြူရေးနှင့်ကုသရေးဦးစီးဌာန ညွှန်ကြားရေးမှူးချုပ်နှင့် ယင်း၏ လက်အောက်ခံပုဂ္ဂိုလ်များသည် အငှားချထားခြင်းခံရသူအား အသိပေးပြောကြားပြီး ဖော်ပြပါ ခြံမြေ၊ အဆောက်အဦများအတွင်းသို့ သင့်တော်သောနေ့အချိန်တွင် ဝင်ရောက်စစ်ဆေး ကြည့်ရှုခွင့် ရှိစေရမည်။

## အပိုဒ် - ၅

## ငှားရမ်းခတိုးမြှင့်ခြင်း

၅။ ငှားရမ်းခကို (၅)နှစ်(၁)ကြိမ် ပြန်လည်သုံးသပ်မည်ဖြစ်ပြီး ငှားရမ်းခတိုးမြှင့်လျှင် ယခင် ငှားရမ်းခ၏ ၁၅% (တစ်ဆယ့်ငါးရာခိုင်နှုန်း)ထက်မပိုစေရပါ။

## အပိုဒ် - ၆

## ငှားရမ်းခြင်းသက်တမ်း

၆။ ကနဦးငှားရမ်းကာလသည် နှစ်ဖက်စာချုပ်ဝင်များ သဘောတူလက်မှတ်ရေးထိုးသည့်( - - )မှ ( - - )ထိနေ့မှ နှစ်၃၀(သုံးဆယ်) ဖြစ်ပြီး (၅) နှစ်သက်တမ်းရှိသော ငှားရမ်းကာလ နှစ်ကြိမ်ဆက်လက်တိုးမြှင့် ငှားရမ်းခွင့်ရှိပါသည်။ ယင်းသို့သက်တမ်းတိုးမြှင့်ရာတွင် အငှားချထားသူ၏ သဘောတူညီချက်နှင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ အတည်ပြုချက် ရယူ၍ ညှိနှိုင်းဆောင်ရွက်ရမည်။ ယင်းငှားရမ်းသက်တမ်းကာလသည် ဤစာချုပ် လက်မှတ်ရေးထိုးသည့်နေ့ရက်မှစ၍ အတည်ဖြစ်သည်။

## အပိုဒ် - ၇
## အပြစ်ရှိခြင်း

၇။ အငှားချထားခြင်းခံရသူသည် ဤငှားရမ်းစာချုပ်ပါ စည်းကမ်းချက်များအား လိုက်နာရန် ပျက်ကွက်ခြင်း(သို့မဟုတ်) ပြန်လည်ပြုပြင်ခြင်း(သို့မဟုတ်) ရက်ပေါင်း(၃၀)အတွင်း လိုက်နာရန် ပျက်ကွက်ခြင်းရှိပါက အငှားချထားသူက အဆိုပါပြစ်ချက်ကို အငှားချထားခြင်းခံရသူအား စာဖြင့် သတိပေးအကြောင်းကြားမည်ဖြစ်ပါသည်။ ထို့နောက်အငှားချထားသူသည် နှစ်ရှည် ငှားရမ်းထားသောမြေနှင့် အဆောက်အဦများအတွင်းသို့ဖြစ်စေ(သို့မဟုတ်) အစိတ်အပိုင်း အတွင်းသို့ဖြစ်စေ မိမိသဘောအလျောက် ဝင်ရောက်သိမ်းပိုက်ခွင့်ရှိ၍ ငှားရမ်းခြင်းရပ်စဲကြောင်း ဆုံးဖြတ်မည့်အပြင် ထိုသို့ဝင်ရောက်သိမ်းပိုက်ခြင်းကြောင်း အငှားချထားခြင်းခံရသူထံမှ ရရန်ရှိသော ငှားရမ်းခဖြစ်စေ၊ ပျက်စီးမှုများအတွက် ရရန်ရှိသောလျော်ကြေးကိုဖြစ်စေ အဟန့်အတား မဖြစ်စေရ၊ ယင်းငွေကြေးများကို အငှားချထားခြင်းခံရသူထံမှ ရပိုင်ခွင့်ရှိသည်။

## အပိုဒ် - ၈
## စာချုပ်အကျိုးသက်ရောက်သောနေ့ရက်

၈။ ဤငှားရမ်းစာချုပ်သည် စာချုပ်အား လက်မှတ်ရေးထိုးသည့်နေ့မှစ၍ အတည်ဖြစ်ပြီး အကျိုး သက်ရောက်သည်။

## အပိုဒ် - ၉
## စာချုပ်ရပ်စဲခြင်း

၉-၁ အောက်ပါအကြောင်းတစ်ရပ်ရပ်ဖြစ်ပေါ်ခဲ့လျှင် ဤငှားရမ်းစာချုပ်ရပ်စဲမည်ဖြစ်သည်-

(က) အစုရှယ်ယာအားလုံး(သို့မဟုတ်) တစ်စိတ်တစ်ဒေသ (သို့မဟုတ်) ဤစာချုပ်၏ အရေး ပါသောအရာကို သိမ်းယူခြင်းအပါအဝင် အစိုးရဌာနတစ်ခုခုကဖြစ်စေ၊ အဖွဲ့အစည်း တစ်ရပ်ကဖြစ်စေ၊ ဥပဒေတစ်ရပ်ရပ်ကို(သို့မဟုတ်) ဤစာချုပ်ပါ ပြဋ္ဌာန်းချက် တစ်ရပ်ရပ်ကို ပြင်ဆင်ပြောင်းလဲခြင်းကြောင့် စာချုပ်ဝင်ပုဂ္ဂိုလ်၏ အစုရှယ်ယာများ (သို့မဟုတ်) ယင်းကိစ္စနှင့် ပတ်သက်သည်များနှင့်စပ်လျဉ်း၍ အကျိုးစီးပွားကို အဓိက အားဖြင့် ဆိုးရွားစွာ ထိခိုက်နစ်နာစေသောကြောင့် ဤငှားရမ်းစာချုပ်ကိုရပ်စဲရန် အကြောင်းကြားခြင်း၊

(ခ) တစ်ဖက်စာချုပ်ဝင်ပုဂ္ဂိုလ်က စာချုပ်ပါစည်းကမ်းများအား အဓိကအားဖြင့် ဖောက်ဖျက် ခြင်းကြောင့် စာချုပ်ရပ်စဲရန်အကြောင်းကြားရာတွင် အကြောင်းကြားသည့်နေ့ရက်မှ ရက်ပေါင်း(၃၀)အတွင်း ပြုပြင်ဆောင်ရွက်မှုမရှိခြင်း၊

(ဂ) မလွန်ဆန်နိုင်သောဖြစ်ရပ်နှင့်ကြုံတွေ့ပြီး ယင်းအန္တရာယ်သည် (၆)လကျော်သည့်တိုင် ဆက်လက်၍ ဘေးအန္တရာယ်ရှိနေသောကြောင့် ဤစာချုပ်ကိုရပ်စဲရန် တစ်ဖက်စာချုပ်ဝင် ပုဂ္ဂိုလ်က အခြားတစ်ဖက်စာချုပ်ဝင်သို့ စာဖြင့်အကြောင်းကြားခြင်း၊

(ဃ) အငှားချထားခြင်းခံရသူတွင် ဆက်တိုက် ဆိုးရွားစွာအရှုံးဖြစ်ပေါ်နေခြင်း၊

(င) အငှားချထားခြင်းခံရသူသည် အရှုံးပေါ်၍ ကြွေးတင်ခြင်း၊ ဒေဝါလီခံရခြင်း၊

(စ) အကြောင်းတစ်ရပ်ရပ်ကြောင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်က လုပ်ငန်းလုပ်ပိုင်ခွင့်ကို ရုပ်သိမ်းခြင်း၊

၉-၂ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်က အတည်ပြုချက်ရရှိပြီးသည့်အခါ ဤစာချုပ်ရပ်စဲခြင်း အတည်ဖြစ်သည်။

## အပိုဒ် - ၁၀

## အနုညာတခုံသမာဓိအဖွဲ့ဖြင့် ဖြေရှင်းခြင်း

၁၀-၁ ဤငှားရမ်းစာချုပ်နှင့် တစ်စုံတစ်ရာအငြင်းပွားမှုဖြစ်ပေါ်ခဲ့လျှင် ယင်းအငြင်းပွားမှုကို နှစ်ဖက်သော စာချုပ်ဝင်ပုဂ္ဂိုလ်များသည် နှစ်ဦးနှစ်ဖက်ချစ်ကြည်ရင်းနှီးစွာ ညှိနှိုင်းဖြေရှင်း ကြရမည်။ အကယ်၍ အထက်ပါအတိုင်း ချစ်ကြည်ရင်းနှီးစွာ ဖြေရှင်းဆောင်ရွက်ခြင်း မပြုနိုင်ပါက ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတွင် အနုညာတခုံသမာဓိအဖွဲ့ဖြင့် ဖြေရှင်းဆောင်ရွက် ရပါမည်။ အနုညာတခုံသမာဓိအဖွဲ့တွင် စာချုပ်ဝင်တစ်ဖက်စီမှ ခုံသမာဓိလူကြီးတစ်ဦးစီ ခန့်ထားရပါမည်။ ယင်းသို့ ဆောင်ရွက်သော်လည်း ဖြေရှင်းခြင်းမပြုနိုင်ပါက ထိုခုံသမာဓိ လူကြီးများက နောက်ဆုံးအဆင့် ခုံသမာဓိလူကြီးတစ်ဦးကို ခန့်ထားဆောင်ရွက်ရပါမည်။ အဆိုပါ ခုံသမာဓိလူကြီး၏ အဆုံးအဖြတ်သည် နောက်ဆုံးအတည်ဖြစ်ပြီး နှစ်ဖက်စာချုပ်ဝင် ပုဂ္ဂိုလ်များက လိုက်နာရန် တာဝန်ရှိစေရမည်။ ဖြေရှင်းဆောင်ရွက်သည့်နည်းလမ်းသည် အနုညာတခုံသမာဓိအက်ဥပဒေ (၂၀၁၆ ခုနှစ်၊ မြန်မာနိုင်ငံ အက်ဥပဒေနှင့်အလားတူသော နည်းဥပဒေများ၊ တည်ဆဲဥပဒေများ)နှင့်အညီ ဖြစ်စေရပါမည်။ ခုံသမာဓိအဖွဲ့ဖြင့် ဖြေရှင်း ဆောင်ရွက်ရာနေရာသည် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၊ နေပြည်တော် ဖြစ်သည်။ ခုံသမာဓိဖြန်ဖြေဆောင်ရွက်ခများကို အမှုရှုံးသည့်ဘက်မှ ကျခံရပါမည်။

၁၀-၂ အငြင်းပွားမှုတစ်စုံတစ်ရာပေါ်ပေါက်လာပါက နှစ်ဦးနှစ်ဖက်သဘောတူချုပ်ဆိုထားသော စာချုပ်အရ ဖြေရှင်းဆောင်ရွက်သွားမည်ကို နှစ်ဦးနှစ်ဖက်သဘောတူညီကြပါသည်။

## အပိုဒ် - ၁၁

## ကျင့်သုံးသောဥပဒေနှင့် စီရင်ပိုင်ခွင့်

၁၁။ ဤစာချုပ်ကို ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၏တရားဥပဒေများနှင့်အညီ နားလည်သိရှိ လိုက်နာကျင့်သုံးဆောင်ရွက်ရမည်ဖြစ်ပြီး စာချုပ်ဝင်ပုဂ္ဂိုလ်များသည် မြန်မာနိုင်ငံရှိ စီရင်ပိုင်ခွင့် ရှိသော တရားရုံးများတွင် ကြားနာခြင်း၊ အယူခံဝင်ခြင်းတို့ကို ပြုလုပ်ရမည်။ တရားရုံးများ၏ စီရင်ပိုင်ခွင့်ကို လေးစားလိုက်နာရမည်။

## အပိုဒ် - ၁၂

## ကနဦးစည်းကမ်းချက်

၁၂။ ဤစာချုပ်ကို ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၏ သက်ဆိုင်ရာ အစိုးရအာဏာပိုင်များထံမှ လိုအပ်သော သတ်မှတ်အတည်ပြုချက်များ လက်ခံရရှိမှုအပေါ်မူတည်၍ အကောင်အထည်ဖော် ဆောင်ရွက်ရမည်ဖြစ်ပါသည်။

## အပိုဒ် - ၁၃
## စာချုပ်ပြင်ဆင်ခြင်း

၁၃။ မြန်မာနိုင်ငံရင်းနှီး မြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုချက်များအရ စာချုပ်ဝင်ပုဂ္ဂိုလ်နှစ်ဖက်လုံးက စာဖြင့်ရေးသားသည့် အတိအလင်းသဘောတူညီချက်အရသာလျှင် ဤစာချုပ်ကို ပြင်ဆင်ခြင်း၊ ပြောင်းလဲခြင်း၊ ထပ်မံဖြည့်စွက်ခြင်းတို့ကို ပြုလုပ်နိုင်သည်။

## အပိုဒ် - ၁၄
## ငှားရမ်းသည့်မြေနှင့် အဆောက်အဦပြန်လည်လွှဲပြောင်းပေးအပ်ခြင်း

၁၄-၁ အငှားချထားခြင်းခံရသူသည် ငှားရမ်းမှုသက်တမ်းကာလအတွင်း ညောင်နှစ်ပင် မြေလွတ်ဧရိယာ (၃၀)ဧကအား သာမန်ပြုပြင်ထိန်းသိမ်းရေးအတွက် တာဝန်ယူဆောင်ရွက်ရမည်။ အငှားချထားသူ၏ စာဖြင့်ကြိုတင်သဘောတူချက်အရသာလျှင် အဆောက်အဦသစ်များ ဆောက်လုပ်ခြင်း၊ ပုံသဏ္ဍာန်ပြောင်းလဲခြင်း၊ တိုးချဲ့ခြင်းများကို ဆောင်ရွက်ရမည်။

၁၄-၂ အငှားချထားခြင်းခံရသူသည် ငှားရမ်းသက်တမ်းမကုန်ဆုံးမီ စာချုပ်ရပ်စဲသည့်အခါ သို့မဟုတ် ငှားရမ်းသက်တမ်းကုန်ဆုံးသည့်အခါ မြေပေါ်ရှိ ဆောက်လုပ်ထားသည့် အဆောက်အဦများ၊ တပ်ဆင်အသုံးပြုထားသည့် စက်ပစ္စည်းများ၊ လုပ်ငန်းသုံးပစ္စည်းများကို အငှားချထားသူသို့ လွှဲပြောင်းပေးအပ်ရမည်။

၁၄-၃ ငှားရမ်းသည့် သက်တမ်းကုန်ဆုံးသည့်အခါ အငှားချထားခြင်းခံရသူသည် မြေနှင့် မြေပေါ်ရှိ ဆောက်လုပ်ထားသည့် အဆောက်အဦများ၊ တပ်ဆင်အသုံးပြုထားသည့် စက်ပစ္စည်းများ၊ လုပ်ငန်းသုံးပစ္စည်းများကို အငှားချထားသူသို့ သက်တမ်းကုန်ဆုံးပြီး (၃)လအတွင်း မည်သည့် အဖိုးစားနားမျှမပါဘဲ အခမဲ့လွှဲပြောင်းပေးရမည်။ ထိုသို့လွှဲပြောင်းသည့်အခါ ကောင်းမွန်သည့် အခြေအနေရှိပြီး၊ မြေပြင်ပျက်စီးမှုများအတွက် မြေဖို့ခြင်း၊ ပြင်ဆင်ခြင်းများ ပြုလုပ်ပြီးဖြစ်ရမည်။

## အပိုဒ် - ၁၅
## မလွန်ဆန်နိုင်သောဖြစ်ရပ်များ

၁၅။ မလွန်ဆန်နိုင်သောဖြစ်ရပ်များဆိုသည်မှာ သဘာဝအလျှောက် ကြုံတွေ့နိုင်သည့် ရေဘေး၊ လေဘေး၊ မီးဘေး၊ မြေငလျင်ဘေးစသည်များအပြင် နိုင်ငံတော်အစိုးရ၏ ကန့်သတ်တားမြစ် ချက်များ၊ တရားဥပဒေစိုးမိုးရေးနှင့် ငြိမ်ဝပ်ပိပြားမှုပျက်ပြယ်ခြင်း၊ စစ်ဖြစ်ခြင်း၊ သပိတ် မှောက်ခြင်း စသည်တို့နှင့် စာချုပ်ဝင်တစ်ဖက်ဖက်ကလိုအပ်သော သတိဝိရိယနှင့် ဆောင်ရွက် စေကာမူ မလွန်ဆန် မကျော်လွှားနိုင်သည့် အလားတူဖြစ်ရပ်များကို ဆိုလိုသည်။ ထိုသို့ မလွန်ဆန်နိုင်သောဖြစ်ရပ်များ ပေါ်ပေါက်လာပါက ယင်းဖြစ်ရပ်ပေါ်ပေါက်လာသည့် အချိန်မှ (၁၄)ရက်အတွင်း ထိခိုက်နစ်နာသော စာချုပ်ဝင်သည် တစ်ဖက်စာချုပ်ဝင်သို့ ချက်ချင်းစာဖြင့် အကြောင်းကြားရမည်။ ယင်းဖြစ်ရပ်များကြောင့် ထုတ်လုပ်မှုလုပ်ငန်းများကို ထိခိုက်ဆုံးရှုံး စေလျှင် **"အငှားချထားသူ"**နှင့် **"အငှားချထားခြင်းခံရသူ"**တို့သည် နှစ်ဦးနှစ်ဖက်ညှိနှိုင်းပြီး စာချုပ်ရပ်စဲနိုင်သည်။ ထိုသို့ ရပ်စဲခြင်းအတွက် **"အငှားချထားခြင်းခံရသူ"**သည် **"အငှား ချထားသူ"**သို့ နစ်နာဆုံးရှုံးမှုအတွက် လျော်ကြေးတောင်းခံခွင့်မရှိစေရ။

## အပိုဒ် - ၁၆
## အာမခံခြင်းနှင့် ကိုယ်စားပြုခြင်း

၁၆။ စာချုပ်ဝင်တစ်ဦးဦးသည် မိမိအနေဖြင့် သက်ဆိုင်ရာ တရားဥပဒေအရ လုပ်ပိုင်ခွင့်ရှိသူ ဖြစ်ကြောင်း၊ ငွေကြေးအရင်းအနှီးပြည့်စုံကြောင်းနှင့် ဤစာချုပ်ကို ချုပ်ဆိုခွင့်ရှိကြောင်း၊ တစ်ဖက်စာချုပ်ဝင် ပုဂ္ဂိုလ်အား အာမခံရပါမည်။

## အပိုဒ် - ၁၇
## ဘာသာစကား

၁၇။ ဤစာချုပ်ကို မူရင်းခွဲ(၃)စောင်အဖြစ် ရေးသားချုပ်ဆိုထား၍ စာချုပ်ဝင် ပုဂ္ဂိုလ်တစ်ဦးချင်း စီတွင် ယင်းမူရင်းခွဲတစ်စောင်စီ ရှိနေရမည်ဖြစ်ပြီး၊ တတိယမူရင်းခွဲတစ်စောင်ကို သက်ဆိုင်ရာ အစိုးရ အာဏာပိုင်များထံသို့ စစ်ဆေးကြည့်ရှုနိုင်ရန်နှင့် အတည်ပြုနိုင်ရန် ပေးပို့တင်ပြရမည်။

## အပိုဒ် - ၁၈
## သတ္တုတွင်းနှင့် ကျောက်ကျင်းများ

၁၈။ အငှားချထားခြင်းခံရသူသည် စာချုပ်၏ မြေပေါ်နှင့်မြေအောက်မှ သတ္တုတွင်းများ၊ ရတနာ ပစ္စည်းများ၊ ကျောက်မီးသွေး၊ ရေနံနှင့်ကျောက်ကျင်းများတွေ့ရှိပါက အငှားချထားသူသို့ ချက်ခြင်း အကြောင်းကြား ဆောင်ရွက်ရမည်။ ဖော်ပြပါ စာချုပ်၏ မြေပေါ်နှင့် မြေအောက်ရှိ သတ္တုတွင်းများ၊ သတ္တုပစ္စည်းများ၊ ရတနာများ၊ ကျောက်မီးသွေး၊ ရေနံနှင့် ကျောက်ကျင်းများသည် အငှား ချထားသူပိုင်ဆိုင်သည့် ပစ္စည်းများဖြစ်ပြီး အငှားချထားသူသည် ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံတော်၏ တရားဥပဒေများနှင့် စည်းမျဉ်းများနှင့်အညီ ယင်းပစ္စည်းများအား အချိန်မရွေး တူးဖော်ရယူပိုင်ခွင့်ရှိသည်။

## အပိုဒ် - ၁၉
## အသုံးပြုမြေကွက်၏ မြေပုံ

၁၉။ ဤသဘောတူစာချုပ်ပါ မြေပုံများနှင့် တည်ရှိသည့်အနေအထားကို နောက်ဆက်တွဲဖြင့် ပူးတွဲ ဖော်ပြထားပြီး ယင်းနောက်ဆက်တွဲသည် ဤငှားရမ်းစာချုပ်၏ အစိတ်အပိုင်း ဖြစ်စေရမည်။

## အပိုဒ် - ၂၀
## အကြောင်းကြားစာများ

၂၀-၁ ဆက်သွယ်ပေးပို့ရန်လိုအပ်သော အကြောင်းကြားစာကို သက်ဆိုင်ရာပုဂ္ဂိုလ်က ပေးထားသော လိပ်စာအတိုင်း ကိုယ်တိုင်ပေးပို့ခဲ့ခြင်း(သို့မဟုတ်) စာတိုက်မှ မှတ်ပုံတင်ပေးပို့ခြင်း(သို့မဟုတ်) ကြေးနန်း(Telex) (သို့မဟုတ်) ဖက်(Fax) ဖြင့် ပေးပို့ခြင်းနည်းလမ်းများဖြင့် ဆောင်ရွက်နိုင်ပြီး ဤသို့ပေးပို့သည်ကို သက်ဆိုင်ရာပုဂ္ဂိုလ်အား ဤအပိုဒ်အရ အကြောင်းကြားရပါမည်-

**နှစ်ဖက် စာချုပ်ဝင် ပုဂ္ဂိုလ်များ၏ လိပ်စာများ**

(က) **အငှားချထားသူ**

(၁) အမည် - မွေးမြူရေးနှင့်ကုသရေးဦးစီးဌာန

(၂) လိပ်စာ - ရုံးအမှတ်(၃၆)၊ နေပြည်တော်၊
ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

(၃) ဖုန်းနံပါတ် - ၀၆၇-၃၄၀၈၄၈၀၊ ၀၆၇-၃၄၁၈၄၅၇၊

(၄) e-mail - lbvd.economic@gmail.com

(၅) Fax - ၀၆၇-၄၀၈၀၅၀

(ခ) **အငှားချထားခြင်းခံရသူ**

(၁) အမည် - Mr. UTHAI TANTI PIMOLPHAN

(၂) လိပ်စာ - Myanmar C.P Livestock Co., Ltd. ၊
အမှတ်(၁၃၅)၊ ပြည်လမ်း၊ရှစ်မိုင်ခွဲ၊ မရမ်းကုန်းမြို့နယ်၊
ရန်ကုန်မြို့။

(၃) ဖုန်းနံပါတ် - ၀၁-၆၆၀၅၄၆၊

(၄) e-mail

(၅) Fax - ၀၁-၆၆၃၇၁၀

၂၀-၂ တစ်ဖက်စာချုပ်ဝင်ပုဂ္ဂိုလ်က ပေးပို့သော အကြောင်းကြားစာကို တစ်ဖက်စာချုပ်ဝင်ပုဂ္ဂိုလ်က ရရှိကြောင်း အသိအမှတ်ပြုလျှင် စာပေးပို့ပြီးဖြစ်သည်ဟု မှတ်ယူရမည်။ လိပ်စာအပြောင်း အလဲရှိလျှင် တစ်ဖက်စာချုပ်ဝင်ပုဂ္ဂိုလ်သည် ယင်းပြောင်းလဲမှုကို စာဖြင့် အကြောင်းကြားရမည်။

နှစ်ဖက်စာချုပ်ဝင်ပုဂ္ဂိုလ်များသည် စာချုပ် အတည်ပြုသောအားဖြင့် ခုနှစ်၊ လ ( ) နေ့ရက်တို့တွင် လက်မှတ်ရေးထိုးကြ၍ သက်ဆိုင်ရာ တံဆိပ်အသီးသီးကို ခတ်နှိပ်လိုက်သည်-

**ဒေါက်တာရဲထွန်းဝင်း**
**ညွှန်ကြားရေးမှူးချုပ်**
**မွေးမြူရေးနှင့်ကုသရေးဦးစီးဌာန**
**စိုက်ပျိုးရေး၊ မွေးမြူရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန**

**Mr. UTHAI TANTI PIMOLPHAN**
**Managing Director**
**Myanmar C.P Livestock Co., Ltd.**

**အသိသက်သေ(၁)**

**လက်မှတ်၊** ..........................
**အမည်၊** ..........................
**ရာထူး၊** ..........................

**အသိသက်သေ(၂)**

**လက်မှတ်၊** ..........................
**အမည်၊** ..........................
**ရာထူး၊** ..........................

(ဂ) အငှားချထားသူသည် ဤစာချုပ်ပါ ခြံမြေ၊ အဆောက်အဦအတွင်းရှိ ငှားရမ်းထားခြင်း မရှိသော ပစ္စည်းများ၏အကျိုးစီးပွား(သို့မဟုတ်) စက်ရုံလုပ်ငန်းကို မြန်မာနိုင်ငံရင်းနှီး မြှုပ်နှံမှုကော်မရှင်၏ခွင့်ပြုချက်ဖြင့် ကုမ္ပဏီတစ်ခုသို့ဖြစ်စေ၊ ပုဂ္ဂိုလ်တစ်ဦးသို့ဖြစ်စေ၊ ယင်းတို့၏ ပြည်တွင်း၊ပြည်ပ လက်အောက်ခံလုပ်ငန်းများသို့ဖြစ်စေ လွှဲပြောင်းပေးအပ်ခြင်း (သို့မဟုတ်) တာဝန်ချထားခြင်းများ ပြုလုပ်ပိုင်ခွင့် ရှိပါသည်။

(က) ငှားရမ်းဆောင်ရွက်ထားသည့်မြေ၊ အဆောက်အဦ၊စက်ပစ္စည်းများအား မျက်မြင်အတိုင်း လွှဲပြောင်းပေးအပ်ရမည်။

(ခ) ငှားရမ်းဆောင်ရွက်ထားသည့်မြေ၊ အဆောက်အဦ၊ စက်ပစ္စည်းများအား ပိုမိုတိုးတက်ကောင်းမွန်စေရန်အတွက် လိုအပ်သော မွမ်းမံပြင်ဆင်မှုများ အသစ်တည်ဆောက်မှုများ ပြုလုပ်နိုင်ရန်အတွက် တင်ပြလာပါက အငှားချထားခြင်းခံရသူသို့ ခွင့်ပြုပေးရမည်။

*[Unofficial Translation]*

**Lease Agreement (draft)**

Land lease Agreement of Nyaung Napin Vacant Land (30) acres (hereinafter referred to as **"Agreement"**) is made at Nay Pyi Taw, the Republic of the Union of Myanmar, on the (      ) day of (      ) in accordance with the following agreements.

BY AND BETWEEN:-

**Livestock Breeding and Veterinary Department**, Ministry of Agriculture, Livestock and Irrigation, established under the laws of Republic of the Union of Myanmar, having its registered office at no (36), Nay Pyi Taw, the Republic of the Union of Myanmar (hereinafter referred to as **"Lessor"** which expression, unless repugnant to the context or meaning thereof, includes its successors, legal representatives and permitted assignees), represented by Director General Dr. Ye Tun Win of ONE PART,

And

**Myanmar C.P Livestock Co., Ltd.**, a company officially incorporated and registered under the Myanmar Company Act, located at no (135), Pyay Road, 8½ miles, Mayangone Township, Yangon, the Republic of the Union of Myanmar (hereinafter referred to as **"Lessee"** which expression, unless repugnant to the context or meaning thereof, includes its successors, legal representatives and permitted assignees), represented by Managing Director Mr. UTHAI TANTIPIMOLPHAN, holder of Passport No (AB 1541203) of the OTHER PART.

Whereas,

Livestock Breeding and Veterinary Department will lease 30 acres out of 200 acres land at Plot No. N-102/1, N-103/1, N-104/1 and N-102/2, N-104/3, Kwin No. 511-B, Auk Chin Kan North Kwin, Nyaung Napin Village Tract, Hmawbi Township, Yangon Region to Myanmar C.P Livestock Co., Ltd., a 100% (hundred percent) foreign-owned private company incorporated in the Republic of the Union of Myanmar with the aim of operating Myanmar Livestock Development Training Center.
The Lessee agrees that modern training schools for animal husbandry will be operated on 30 acres out of 200 acres land of Nyaung Napin agriculture zone which had been leased in accordance with the agreements and terms included in the contract.

The Lessor also represents and warrants that the abovementioned land is officially applicable to it.

NOW THEREOF, the parties made this Agreement mutually as described herein below:

**Article 1**

**Terms and Conditions related to Land Premium, Rental Fee and Payment**

1. Terms and Conditions related to Land Premium, Rental Fee and Payment are as follows:-

   (a) Land Premium is 1% on proposesd investment amount which is US$ 30,000 (United States Dollar Thirty Thousand Only) and the Lessee shall pay the lump sum of Land Premium within three (3) months after the parties had signed this Agreement.

   (b) Rental fee of Nyaung Napin Vacant Land (30) acres is (36,000,000 MMK)(thirty-six million kyats) per year.

   (c) After the Nyaung Napin Vacant Land (30) acres had officially leased, the lump sum


Decha & Co (Myanmar) Limited
ဒေချာ အင်န် ကို (မြန်မာ) လီမိတက်
22 (C), Lane of Kabaraye Pagoda Road, Ko Min Ko Chin Ward,
Bahan Township, Yangon, Myanmar 11201
Tel: (+95) 94-5523-7324, (+95) 94-5523-7325
(+95) 97-6152-7123
Fax: (+95) 1-552-845

of rental fee (36,000,000) MMK for one year shall be deposited into Livestock Breeding and Veterinary Department's bank account no MD-010839, Myanmar Economic Bank within one (1) month from the date on which the parties had signed the Agreement.

(d) The rest annual rental fee shall be further paid to the Lessor in the first weeks of the first months of respective quarters of the year, starting from due date of the paid one (1) year term by depositing rental fee for three (3) months into the Livestock Breeding and Veterinary Department's bank account no MD-010839, Myanmar Economic Bank once every three (3) months.

(e) If the payment exceeds the specified deadline for more than five (5) days, Lessee shall pay one percent (1%) of one (1) year rental fee to the Lessor as late payment panelty for every single late day.

(f) The rental fee will reconsider every five (5) years of the leased term and whether the rental fee is increased or decreased, annual rental fee shall not be exceeded 15% (fifteen percent) of previous rental fee.

**Article 2**

**Responsibilities of Lessee**

2. The Lessee agrees to carry out the followings together with the Lessor:

(a) The Lessee shall pay the rental fee at specified rate and dates and is responsible to pay the fees incurred for other services charged by relevant authorities;

(b) The Lessee shall not sub-lease, allocate or transfer the whole part or any part of long-term leased Nyaung Napin Vacant Land (30) acres.

(c) The Lessee shall fence the leased land on its own for the security of the land. Since there was no squatter on the land of Nyaung Napin Vacant Land (30) acres by the time the Lessor leased the land to the Lessee, the Lessee shall perform to prevent the squatters entering the land and the Lessee shall be responsive for any entering of squatters and shall dispel them on its own plan;

(d) The Lessee shall commence operating businesses on the leased land from the date of obtaining official approval from Myanmar Investment Commission (MIC) and renovating, fixing and expanding the required buildings, equipment on the land and in the buildings, installing new equipment shall be done only if approval from Livestock Breeding and Veterinary Department is obtained. Changing or expanding the building shall not be done without prior consent or confirmation of the Lessor. The land, building thereon and equipment shall be transferred to the Department the same as original conditions;

(e) The Lessee shall guarantee to operate the businesses on this long-term leased land and in the buildings thereon or on any par of the land in accordance with the laws of the Republic of the Union of Myanmar;

(f) The Lessee shall only operate the businesses provided in the business proposal letter and shall not operate other businesses and illegal businesses. Otherwise, the Agreement will


Decha & Co (Myanmar) Limited
ဒေချား အင်န် ကို (မြန်မာ) လီမိတက်
22 (C), Lane of Kabaraye Pagoda Road, Ko Min Ko Chin Ward,
Bahan Township, Yangon, Myanmar 11201
Tel: (+95) 94-5523-7324, (+95) 94-5523-7325
(+95) 97-6152-7123
Fax: (+95) 1-552-845

